ကျွန်ုပ်တို့ဖြစ်ကြသည့်အောက်တွင်ယင်းတို့၏ အမည်များ၊ လူမျိုး၊ လိပ်စာများနှင့် ဖော်ပြချက်များ ရေးသွင်းထားကြသည့် လူပုဂ္ဂိုလ်များသည် ဤသင်းဖွဲ့မှတ်တမ်းနှင့်အညီ ကုမ္ပဏီတစ်ခုကို ဖွဲ့စည်းလိုကြသည်။ ထို့ပြင်ကျွန်ုပ်တို့ အသီးသီးသည် ကျွန်ုပ်တို့၏ သက်ဆိုင်ရာအမည်များနှင့် ယှဉ်တွဲဖော်ပြထားသည့် " ကုမ္ပဏီ " ၏မတည်ငွေရင်းတွင် အစုရှယ်ယာ အရေအတွက်ရယူရန် သဘောတူညီကြသည်။

| အမှတ်စဉ် | အမည်၊ နေရပ်လိပ်စာ၊ နှင့် ပေးသွင်းမှုတို့၏ အလုပ်အကိုင်များ | လူမျိုးနှင့် အမျိုးသားမှတ်ပုံတင် အမှတ် | ရယူမည့်အစု ရှယ်ယာများ အရေအတွက် | လက်မှတ်များ |
|---|---|---|---|---|
| ၁။ | RMA Holdings Singapore Pte. Ltd<br><br>(Incorporated in Singapore)<br>Represented by: | | ၇၅,၀၀၀ | |
| | (A) Mr. KEVIN ROBERT WHITCRAFT<br>8 Sukhumvit 32 Road, Klongton Nue, Wattana, Bangkok 10110, THAILAND.<br>(Businessman) | Thai<br>PP No.<br>AA 2658556 | | |
| | (B) Mr. DALE LYNN JONES<br>2205 Canyonville Drive, Henderson, NV, USA 89044<br>(Businessman) | American<br>PP No.<br>505671510 | | |
| | (C) Mr. CHAN WAI ZHONG<br>391/21 Moo.12, Tambon Nongprue, Amphoe Banglamung, Chonburi 20150, THAILAND<br>(Businessman) | Malaysian<br>PP No.<br>A35061346 | | |
| ၂။ | Capital Automotive Limited<br>(Incorporated in Myanmar)<br>Represented by: | | ၇၅,၀၀၀ | |
| | (က) ဦးခင်ထွန်း<br>၅၀၄၊ Junction 8၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံ။<br>(စီးပွါးရေးလုပ်ငန်းရှင်) | မြန်မာ<br>၁၂/ဘဟတ (နိုင်)<br>၀၃၃၁၂၇ | | |
| | (ခ) ဦးစိုးနိုင် (ခေါ်) ဦးကိုကိုကြီး<br>၁၂၆/က၊ ကမ္ဘာအေးဘုရားလမ်း၊ ဆရာစံရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့၊ပြည်ထောင်စုမြန်မာနိုင်ငံ။<br>(စီးပွါးရေးလုပ်ငန်းရှင်) | မြန်မာ<br>၁၂/ခတတ (နိုင်)<br>၀၁၂၂၄၃ | | |
| | (ဂ) ဦးအောင်မျိုးမြတ်<br>၁၂၆/က၊ ကမ္ဘာအေးဘုရားလမ်း၊ ဆရာစံရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့၊ပြည်ထောင်စုမြန်မာနိုင်ငံ။<br>(စီးပွါးရေးလုပ်ငန်းရှင်) | မြန်မာ<br>၉/ကအဇ (နိုင်)<br>၀၀၀၉၃၉ | | |
| | | | ၁၅၀,၀၀၀ | |

ရန်ကုန်၊ ၂၀၁၅ - ခုနှစ်၊ ဇူလိုင် လ၊ ၃၀ ရက်။
ဤတွင် ဟုတ်မှန်ကြောင်းအတည်ပြုအပ်သည်မှာ အထက်တွင် ဖော်ပြသည့် ပုဂ္ဂိုလ်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် "လက်မှတ်များ" ကိုရေးထိုးကြပါသည်။

U AH LONN MAUNG
B.A. (ENGLISH), R.L. (ADVOCATE)
DEPUTY DIRECTOR (RETD.)
ADVOCATE LICENSE NO. 6610

**မြန်မာကုမ္ပဏီများအက်ဥပဒေ**
**အစုရှယ်ယာများဖြင့်ကန့်သတ်ထားသည့်အများနှင့် မသက်ဆိုင်သောကုမ္ပဏီ**
**CAPITAL MOTORS LIMITED (ကပ်ပီတယ်(လ်) မော်တော်(စ်) လီမိတက်)**
**၏**
**သင်းဖွဲ့စည်းမျဉ်း**

---

၁။ မြန်မာကုမ္ပဏီများ အက်ဥပဒေ၊ ပဏာမဇယား၏ဇယား"က"ပါစည်းမျဉ်းများသည်ဤအပိုဒ်များတွင် ယင်းတို့ကို ထပ်မံဖော်ပြထားခြင်း (သို့မဟုတ်) ထည့်သွင်းပါဝင်သည်မှအပ ကုမ္ပဏီ နှင့် အကျုံးဝင် သက် ဆိုင်ခြင်းမရှိစေရ။

**နိဒါန်း**

၂။ ဤအပိုဒ်များတွင် ရှေ့နောက်စကားအဆက်အစပ်အရ အခြားနည်း လိုအပ်ချက်မရှိပါက ဤအပိုဒ်သည် "ကုမ္ပဏီ"ပေါ်တွင် စည်းနှောင်မှုဖြစ်လာသော နေ့ရက်တွင် အတည်ဖြစ်နေသည့် "မြန်မာ ကုမ္ပဏီများအက်ဥပဒေ" သို့မဟုတ် ယင်းကို ပြင်ဆင်ချက်များတွင် အဓိပ္ပာယ်ဖွင့်ဆိုထားသည့် စကားလုံးများ သို့မဟုတ် စကားရပ်များသည် ယင်းသို့အဓိပ္ပာယ် သတ်မှတ်သည့်အတိုင်း အဓိပ္ပာယ်ရှိရမည်ဖြစ်သည်။"ဧကဝုဒ်" ကိန်းကို ရည်ညွှန်းသည့် စကားရပ်များသည် "ဗဟုဝုဒ်" အဓိပ္ပာယ် လည်းပါဝင်ပြီး ၊ အပြန်အလှန် အဓိပ္ပာယ်ရှိသည်၊ ထို့ပြင် "အထီးလိင်" ကို ရည်ညွှန်းသည့် စကားရပ်များတွင် "အမလိင်"သည်လည်း အပါအဝင်ဖြစ်သည်။ လူပုဂ္ဂိုလ်ကို ရည်ညွှန်းသည့် စကားရပ်များတွင် စီးပွားရေး အဖွဲ့အစည်းများသည် လည်း ပါဝင်သည်။

**အများနှင့်မသက်ဆိုင်သောကုမ္ပဏီ**

၃။ "ကုမ္ပဏီသည်" အများနှင့်မသက်ဆိုင်သောပေးရန်တာဝန်များကို ကန့်သတ်ထားသည့် ကုမ္ပဏီတစ်ရပ် ဖြစ်ရမည့် အပြင် အောက်ပါပြဋ္ဌာန်းချက်များသည်လည်းအကျိုးကြောင်းလျော်ညီစွာအကျိုးသက်ရောက်မှုရှိစေရမည် -

(က) "ကုမ္ပဏီ" ၏အစုရှယ်ယာဝင်သူများအရေအတွက်သည် ကုမ္ပဏီ၏အလုပ်ကိုင်ခန့်ထားမှုတွင် ပါဝင်ကြသူများ မပါဝင်ဘဲ၊ ငါးဆယ်ဦးရေတွင်ကန့်သတ်ထားသည်၊

(ခ) "ကုမ္ပဏီ" ၏ အစုရှယ်ယာ (သို့မဟုတ်) ဒီဘင်ချာငွေချေးလက်မှတ် (သို့မဟုတ်) ဒီဘင်ချာစတော့(ခ်) အတွက် ငွေသွင်းရန် အများပြည်သူ အားဖိတ်ခေါ်မှုကို ဤတွင်ပိတ်ပင်ထားသည်။

<u>မတည်ရင်းနှီးငွေနှင့်အစုရှယ်ယာများ</u>

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် အမေရိကန်ဒေါ်လာ - ၄၅,၁၃၁,၂၃၈.၀၀/ အမေရိကန်ဒေါ်လာ လေးရာငါးဆယ့်တစ်သိန်း၊ သုံးသောင်း တစ်ထောင့်နှစ်ရာ သုံးဆယ့်ရှစ် တိတိ) ဖြစ်၍ (ဒေါ်လာ ၁ ဒေါ်လာတန် အစုရှယ်ယာပေါင်း ၄၅,၁၃၁,၂၃၈)ဖြင့် ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ အစုရှယ်ယာရှင်များ၏ အခွင့်အာဏာဖြင့် တိုးမြှင့်နိုင်ခွင့် ၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၅။ မည်သည့်အစုရှယ်ယာကိုမျှ ထည့်ဝင်ကြေးပေးသွင်းရန်အများပြည်သူသို့ကမ်းလှမ်းခြင်းမပြုရ။

၆။ အစုရှယ်ယာလက်ရှိဖြစ်သူများ မှတ်ပုံတင်စာအုပ်တွင် အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦးအဖြစ် အမည်စာရင်း ရေးသွင်းထားသူပုဂ္ဂိုလ်တိုင်းသည် ငွေပေးချေခြင်းမပြုဘဲ"ကုမ္ပဏီ"၏ရုံးတံဆိပ်ဖြင့် လက်မှတ်တစ်စောင်ခံစားခွင့် ရရှိရမည် ဖြစ်ပြီး၊ ယင်းတွင် ထိုသူလက်ဝယ်ရှိအစုရှယ်ယာ(သို့မဟုတ်) အစုရှယ်ယာများ နှင့် ယင်းအပေါ်တွင်ပေးသွင်းပြီးသည့် ငွေပမာဏကို အသေးစိတ် ဖော်ပြထားရမည်။ သို့သော်လူပုဂ္ဂိုလ် အများအပြား ပူးတွဲလက်ဝယ်ရှိသည့် အစုရှယ်ယာ (သို့မဟုတ်) အစုရှယ်ယာများ နှင့်စပ်လျဉ်း၍

ကုမ္ပဏီ"သည်အစုရှယ်ယာတစ်ရပ် အတွက်လက်မှတ် တစ်စောင် ထက်ပို၍ထုတ်ပေးရန် တာဝန်မရှိစေရ။ ထို့ပြင်အစုရှယ်ယာ တစ်ရပ်အတွက် ပူးတွဲလက်ရှိဖြစ်သူများအနက် တစ်ဦးဦးထံသို့ပေးပို့ခြင်းသည် အား လုံးထံသို့ ပြီးပြည့်စုံသည့်ပေးဆက်ခြင်းဖြစ်ရမည်။

၇။ " ကုမ္ပဏီ"၏ အစုရှယ်ယာများပိုင်ဆိုင်ခွင့်လက်မှတ်ကို " ကုမ္ပဏီ၏ရုံးတံဆိပ်" ဖြင့် ထုတ်ဝေရမည်အပြင်၊ ဒါရိုက်တာ တစ်ဦးနှင့် (သို့မဟုတ်) ဒါရိုက်တာများဘုတ်အဖွဲ့က အမည်တင်သွင်းခြင်းခံရသူအချို့သော ပုဂ္ဂိုလ်များက လက်မှတ် ရေးထိုးရမည်။ အကယ်၍အစုရှယ်ယာလက်မှတ်သည်ရေးခြစ်၍ပျက်စီးသွား လျှင်၊ပျောက်ဆုံးလျှင် (သို့မဟုတ်) ဖျက်ဆီး ခံရလျှင် အကယ်၍ ရှိလျှင် အခကြေးငွေပေး ချေခြင်းနှင့် အကယ်၍ရှိ လျှင်ယင်း စည်းကမ်းချက် များဖြင့်ဒါရိုက် တာများ ကသင့်တော်သည်ဟု ထင်မြင် သည့်အတိုင်းသက်သေအထောက်အထား နှင့် ပေးလျော် ရန်ကတိနှင့် အညီအသစ် ထုတ် ပေးနိုင်သည်။ ရပ်စဲပြီးသည့် အစုရှယ်ယာ လက်ရှိဖြစ်သူတစ်ဦး၏ တရားဝင်ကိုယ်စားလှယ် ကိုဒါရိုက်တာများက အသိ အမှတ်ပြုရမည်။

<u>**အစုရှယ်ယာများကိုလွှဲပြောင်းပေးအပ်ခြင်းနှင့် တစ်ဆင့်ပေးပို့ခြင်း**</u>

၈။ "ကုမ္ပဏီ" ၏ အစုရှယ်ယာလွှဲပြောင်းခြင်းစာချုပ်ကို အသုံးပြုနေကျ သို့မဟုတ် အများသုံးပုံစံ သို့မဟုတ် ဒါရိုက်တာများက သဘောတူခွင့်ပြုသည့် အခြားပုံစံဖြစ်ရမည့်အပြင် ယင်းကို "လွှဲပြောင်းပေးသူ နှင့် လွှဲပြောင်းပေးခြင်းခံရသူ" တို့က ချုပ်ဆိုရမည်ဖြစ်သည်။ ထို့ပြင် ယင်းသို့လွှဲပြောင်းပေးခြင်းနှင့် စပ် လျဉ်း၍ "လွှဲပြောင်းပေးခြင်းခံရသူ" ၏ အမည်သည် အဖွဲ့ဝင်များမှတ်ပုံတင်စာရင်းတွင် မရေးသွင်းသရွေ့ "လွှဲပြောင်းပေးသူ" သည် အစုရှယ်ယာလက်ရှိဖြစ်သူအဖြစ် ဆက်လက်တည်ရှိရမည်။

၉။ "ဒါရိုက်တာများ" သည် ငွေကြေးအပြည့်အဝပေးချေခြင်းမပြုရသေးသည့် အစုရှယ်ယာများအား၊ ယင်းတို့က သဘောတူခွင့်ပြုခြင်းမရှိသည့်ပုဂ္ဂိုလ်တစ်ဦးထံသို့ လွှဲပြောင်းပေးခြင်းကို မှတ်ပုံတင်ရန် ငြင်း ပယ်နိုင်သည်။ ထို့ပြင် "ကုမ္ပဏီ" က ပစ္စည်းကို အာမခံအဖြစ် လက်ဝယ်ထားပိုင်ခွင့်ရှိသည့် အစုရှယ်ယာ များ လွှဲပြောင်းခြင်းကို မှတ်ပုံတင်ရန်ငြင်းပယ်နိုင်သည်။

၁၀။ ဒါရိုက်တာများသည်လွှဲပြောင်းပေးသည့် စာချုပ်စာတမ်းတွင်အောက်ပါများမပါရှိပါက အစုရှယ်ယာများ လွှဲပြောင်းပေးခြင်းကို အသိအမှတ်ပြုရန် (သို့မဟုတ်) မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည် -

(က) လွှဲပြောင်းပေးခြင်းနှင့်စပ်ဆိုင်သည့် အစုရှယ်ယာများလက်မှတ် (သို့မဟုတ်) အကယ်၍ လက်မှတ်တစ်ဆောင် ပျောက်ဆုံးသွားကဒါရိုက်တာများကသဘောတူခွင့်ပြုသည့် ပုံစံဖြင့်ယင်းပျောက်ဆုံးသည့် လက်မှတ်နှင့် စပ်လျဉ်း၍"လွှဲပြောင်းပေးမည် အစုရှယ်ယာ လက်ရှိဖြစ်သူ" ကုမ္ပဏီအကျိုးအတွက် သင့်လျော်သည့် "လျော်ကြေးပေးရေးစာချုပ်" တစ်ရပ်။

(ခ) ယင်းသို့လွှဲပြောင်းပေးခြင်းမပြုလုပ်မီ"အကျုံးဝင်သက်ဆိုင်သည့်"ဥပဒေအရယင်းလွှဲပြောင်းပေး သည်ကိုသဘောတူ ခွင့်ပြုရန်တာဝန်ရှိသူမြန်မာနိုင်ငံရှိသက်ဆိုင်ရာအာဏာပိုင်သို့မဟုတ်အဖွဲ့အစည်းထံမှယင်းအစုရှယ်ယာများလွှဲပြောင်းပေးမှုအတွက်စာဖြ င့်ရေးသားထားသည့်သဘောတူခွင့်ပြု ချက်။

(ဂ) လွှဲပြောင်းပေးသူနှင့် လွှဲပြောင်းပေးခြင်းခံရသူ နှစ်ဦးစလုံးထံမှအောက်ပါ "အပိုဒ်" ၁၁ (သို့မဟုတ်) ၁၂ ပါ ပြဋ္ဌာန်းချက်များကို အပြည့်အဝလိုက်နာ ပြီးဖြစ်ကြောင်း စာဖြင့်ရေးသားထားသည့်အတည်ပြုချက်။

အကယ်၍ဒါရိုက်တာများသည်"အပိုဒ်" ၉ (သို့မဟုတ်) ၁၀ အရအစုရှယ်ယာများကို လွှဲပြောင်းပေးရေး တစ်ရပ်အတွက် မှတ်ပုံတင်ရန်ငြင်းပယ်လျှင်၊ယင်းတို့သည် ကုမ္ပဏီတွင်လွှဲပြောင်းပေးခြင်းကိုတင်သွင်းသည့် နေ့ပြီးနောက်နှစ်လအတွင်း "ငြင်းပယ်သည့် လွှဲပြောင်းပေးသူ၏နို့တစ်စာ"ကိုလွှဲပြောင်းပေးခြင်းခံရသူထံသို့ပေးပို့ရမည်။

၁၁။ မည်သည့်အစုရှယ်ယာပိုင်ရှင်မျှ ဤအပိုဒ် ၁၁ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ဖြင့်ရင်း နှီးမြှုပ်နှံ မှုပြုလုပ် နေသော ကုမ္ပဏီများမှရှယ်ယာများအားတည်ဆဲဥပဒေ (အထူးသဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် လိုအပ်သော) နှင့်

အ ညီလွှဲပြောင်းပေးခြင်းမှအပ ၊ "ကုမ္ပဏီ" ၏ အစုရှယ်ယာများကို မှတ်ပုံတင်ရန်ပြောင်းလဲခြင်း သို့မဟုတ် နောက်တိုး လိုအပ်သည့် ထိုသူ၏အစုရှယ်ယာများရှိ ဥပဒေကြောင်း အရ သို့မဟုတ် အကျိုးခံစား ထိုက်သည့် အကျိုးစီးပွား တစ်စုံတစ်ရာကို ရောင်းချခြင်း၊ တာဝန်ပေးခြင်း၊ လွှဲ ပြောင်းပေးခြင်း သို့မဟုတ် အခြားနည်း စီမံခန့်ခွဲခြင်းမပြုရ။ အကယ်၍ အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦး သည် အပိုဒ် ၁၁ တွင်ပါရှိသည့် ကန့်သတ်ချက်များကို ချိုးဖောက်၍ အစုရှယ်ယာများကို "လွှဲပြောင်းပေးရန်" အားထုတ်ပါက "ကုမ္ပဏီ" သည် "လွှဲပြောင်းပေးမှု" ကို အသိအမှတ်ပြုရန် သို့မဟုတ် မှတ်ပုံတင်ရန် ငြင်း ပယ်နိုင်ပြီး ယင်းရည်ရွယ်သည့် "လွှဲပြောင်းပေးမှု" သည် ပျက်ပြယ်သည်။ ထို့ပြင် ဤအပိုဒ် ၁၁ ပါ ကန့်သတ်ချက်များကို ချိုးဖောက်သော အဆိုပါရည်ရွယ်သည့် "လွှဲပြောင်းပေးမှု" သည် အပိုဒ် ၁၂ မှ ၁၇ အထိပါသော ပြဋ္ဌာန်းချက်များတို့နှင့်အညီ ယင်း "အစုရှယ်ယာများ" ၏ မဖြစ်မနေ "လွှဲပြောင်းပေးခြင်း" ကို ဖြစ် မြောက်စေရန် တွန်းပို့ပေးသည်။

(က) မည်သည့်အစုရှယ်ယာလက်ရှိဖြစ်သူမျှ အောက်ပါအခြေအနေများ မရှိ/မပေါ်ပေါက်ပါက "ကုမ္ပဏီ" ၏ အစုရှယ်ယာလက်ရှိဖြစ်သူ မဟုတ်သေးသူ ပုဂ္ဂိုလ်တစ်ဦးအား အစုရှယ်ယာ များကို လွှဲပြောင်းမပေးနိုင် -

(၁) "လွှဲပြောင်းပေးသူ" အနေဖြင့် စာချုပ်ဝင်တစ်ဦးဖြစ်သည့် သဘောတူညီချက် တစ်ရပ်၏ စည်းကမ်းချက်တစ်ရပ်အဖြစ် လက်မှတ်ရေးထိုးရန်လိုအပ်သည့် "လိုက် နာရမည့်စာချုပ်" တစ်ရပ်ရပ်ကို ယင်းပုဂ္ဂိုလ်က လက်မှတ်ရေးထိုးပြီးဖြစ်သည်။

(၂) အထက်အပိုဒ် ၁၀ (က) နှင့် (ခ) တို့အရ လိုအပ်သောစာရွက်စာတမ်းများကို "ကုမ္ပဏီ"သို့ လွှဲပြောင်းပေးခြင်း။

(၃) အခြားသောအစုရှယ်ယာလက်ရှိဖြစ်သူ (များ) က "လွှဲပြောင်းပေးခြင်း" အပေါ် စာဖြင့် ရေးသားထားသည့် ယင်းတို့၏သဘောတူခွင့်ပြုချက်ပေးထားပြီးခြင်း။

(ခ) ဥပဒေနှင့်အညီ စီးပွားရေးအဖွဲ့အစည်းအဖြစ် ဖွဲ့စည်းထားသည့် အစုရှယ်ယာလက်ရှိဖြစ် သူသည် အထက်စာပိုဒ် (က) နှင့် အောက်ပါစည်းကမ်းချက်များကို အထောက်အထားပြု၍ "လွှဲပြောင်းပေးသည့်အစုရှယ်ယာလက်ရှိဖြစ်သူ" ("အဖွဲ့ဝင်") အဖြစ် ယင်းကုမ္ပဏီများ အုပ်စု၏အဖွဲ့ဝင်ဖြစ်သည့် ကုမ္ပဏီသို့ ယင်း၏အစုရှယ်ယာများ၏အားလုံး သို့မဟုတ် အစိတ် အပိုင်းကို "လွှဲပြောင်းပေးနိုင်သည်"၊

(၁) အကျုံးဝင်သက်ဆိုင်သည့် စီမံခန့်ခွဲမှုဆိုင်ရာ သဘောတူခွင့်ပြုချက်များ၊ သဘော တူညီချက်များနှင့် လိုအပ်ချက်များကို လိုက်နာလျှင်၊

(၂) ယင်း "လွှဲပြောင်းပေးခြင်းခံရသူ" သည် "လွှဲပြောင်းပေးသူ အစုရှယ်ယာလက်ရှိ ဖြစ်သူ"၏ "အဖွဲ့ဝင်" အဖြစ်မှ ရပ်စဲသွားပါက ယင်း "အစုရှယ်ယာများ" ကို "လွှဲပြောင်းပေးသူအစုရှယ်ယာလက်ရှိဖြစ်သူ" ထံသို့ ပြန်လည်၍လွှဲပြောင်းပေးရ မည်။

(ဂ) အထက်စာပိုဒ် (ခ) နှင့်အညီ "လွှဲပြောင်းပေးခြင်း" မှအပ ယင်း၏အစုရှယ်ယာများကို "လွှဲပြောင်းပေးရန်" ဆန္ဒရှိသူ အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦးသည် ("ရောင်းချသူ") အောက်ပါအချက်များအပါအဝင် အဆိုပြုသည့် "လွှဲပြောင်းပေးမှု" ၏ အသေးစိတ်အချက် များကို အခြားသော "အစုရှယ်ယာလက်ရှိဖြစ်သူ" ("ဆက်လက်တည်ရှိနေသည့်အစု ရှယ်ယာလက်ရှိဖြစ်သူ" ထံသို့ "ပြန်လည်ရုပ်သိမ်းခွင့်မရှိသည့် နို့တစ်စာ" ("လွှဲပြောင်း ပေးခြင်းနို့တစ်စာ") ကို ပေးရမည် -

(၁) အကယ်၍ ယင်းသည် ယင်း၏အစုရှယ်ယာများကို အခြားသူတစ်ဦးထံသို့ ရောင်းချရန် ဆန္ဒရှိပါက အဆိုပြုသည့် "လွှဲပြောင်းပေးခြင်းခံရသူ၏အမည်" နှင့်

(၂) ဈေးနှုန်း (လွှဲပြောင်းပေးခြင်းအတွက် ပေးချေရမည့်ငွေသား) နှင့် ယင်း၏ "အစု ရှယ်ယာများ" ကို လွှဲပြောင်းပေးရန် ထိုသူဆန္ဒရှိသည့် အဓိကစည်းကမ်းချက်များ။

(ဃ) အကယ်၍ "ဆက်လက်တည်ရှိနေသည့်အစုရှယ်ယာလက်ရှိဖြစ်သူ" က သူ့အနေဖြင့် "ကုမ္ပဏီ" ရှိ "ရောင်းချသူ" ၏ အစုရှယ်ယာများအားလုံးကို ဝယ်ယူရန်ဆန္ဒရှိကြောင်း "လွှဲပြောင်းပေးခြင်း နို့တစ်စာ" ကို ထိုသူလက်ခံရရှိသည့်နေ့မှ ရက်ပေါင်း (၆၀) အတွင်း "ရောင်းချသူ" ထံသို့ နို့တစ်စာပေးပို့လျှင် ယင်း "ဆက်လက်တည်ရှိနေသည့် အစု ရှယ်ယာလက်ရှိဖြစ်သူ" သည် "လွှဲပြောင်းပေးခြင်း" နို့တစ်စာတွင် အသေးစိတ်သတ်မှတ် ထားသည့်ဈေးနှုန်းဖြင့် ယင်းသို့ဆောင်ရွက်ပိုင်ခွင့်ရှိရမည်၊

(င) "ဆက်လက်တည်ရှိနေသည့် အစုရှယ်ယာလက်ရှိဖြစ်သူသည် အထက်စာပိုဒ် (ဃ) အရ ယင်းက "ရောင်းချသူ" အား နို့တစ်စာပေးရာတွင် ယင်းအနေဖြင့် ထိုသို့ ဆောင်ရွက်ရန် ဆန္ဒရှိကြောင်းပါရှိပါက "ရောင်းချသူ၏ အစုရှယ်ယာများ" အားလုံးကို ဝယ်ယူ ရန် တာဝန်ရှိသည်။ အစုရှယ်ယာများကို ရောင်းချခြင်းနှင့် ဝယ်ယူခြင်းသည် "လွှဲပြောင်းပေး ခြင်းနို့တစ်စာ" တွင် သတ်မှတ်ထားသည့်စည်းကမ်းချက်အရ ဖြစ်ရမည်။ "ဆက်လက် တည်ရှိနေသည့် အစုရှယ်ယာလက်ရှိဖြစ်သူ" က "ဤသဘောတူညီချက်" အရ ရောင်းချ ခြင်းနှင့် ဝယ်ယူခြင်းကို ပြီးစီးအောင်ဆောင်ရွက်ရန် ပျက်ကွက်ခြင်းသည် အပိုဒ် ၁၂ အရ မလွှဲမသွေလွှဲပြောင်းပေးရမည့်ဖြစ်ရပ်" တစ်ခုအဖြစ်သို့ ရောက်ရှိသွားနိုင်သည်။

(စ) အထက်အပိုဒ် (ဃ) တွင် အသေးစိတ်ဖော်ပြထားသည့်အချိန်ကာလကျော်လွန်သည့် အချိန်တွင် "ဆက်လက်တည်ရှိနေသည့်အစုရှယ်ယာလက်ရှိဖြစ်သူ" သည် "ရောင်းချသူ" ထံသို့ ယင်းက အစုရှယ်ယာများကို ဝယ်ယူလိုကြောင်း အကြောင်းကြားခြင်းမရှိပါက "ရောင်းချသူ" သည် "ကုမ္ပဏီ" ရှိ ယင်း၏အစုရှယ်ယာများအားလုံးအား ယင်းနို့တစ်စာ တွင် အသေးစိတ်သတ်မှတ်ထားသည့်ဈေးနှုန်းထက် မလျော့သောဈေးနှုန်းဖြင့် "လွှဲပြောင်း ပေးခြင်းနို့တစ်စာ" တွင် သတ်မှတ်ထားသည့် "ဝယ်ယူသူ" အား လွှဲပြောင်းပေးနိုင်သည်။ သို့သော် ယင်းကို အထက်စာပိုဒ် (ဃ) တွင် အသေးစိတ်ဖော်ပြထားသည့်အချိန်ကာလ ကုန်လွန်ပြီး ၃(သုံး)လအတွင်း ထိုသို့ဆောင်ရွက်ရမည်။

(ဆ) အထက်စာပိုဒ် (ဃ) နှင့်အညီ "ရောင်းချသူ" အား နို့တစ်စာပေးရန်ပျက်ကွက်သည့် သို့မဟုတ် စာပိုဒ် (ဂ) အရ "လွှဲပြောင်းပေးသည့်နို့တစ်စာ" တွင် ထိုသူအား ကမ်းလှမ်း သည့်အစုရှယ်ယာများကိုဝယ်ယူရန် အခြားနည်းငြင်းပယ်သူ "ဆက်လက်တည်ရှိနေသည့် အစုရှယ်ယာလက်ရှိဖြစ်သူ" သည် "လွှဲပြောင်းပေးခြင်းနို့တစ်စာ" တွင် သတ်မှတ်ထား သည့် စည်းကမ်းချက်အရ ဝယ်ယူသူအား အစုရှယ်ယာများအား "လွှဲပြောင်းပေးရန်" သဘောတူခွင့်ပြုရန်တာဝန်ရှိရမည်။

၁၂။ စာပိုဒ် (၁၁) ကို အထောက်အထားပြု၍ အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦးနှင့်စပ်လျဉ်း၍ အောက်တွင် ဖော်ပြထားသည့်ဖြစ်ရပ်တစ်ရပ် ("မလွှဲမသွေလွှဲပြောင်းပေးရမည့်ဖြစ်ရပ်") ဖြစ်ပွားခြင်းသည် ဤအပိုဒ် ၁၂ နှင့် အညီ အဓိပ္ပါယ်သတ်မှတ်ထားသည့် "မလွှဲမသွေလွှဲပြောင်းပေးခြင်း" တစ်ရပ်ကို ဖြစ်အောင်တွန်းပို့ပေးနိုင် သည်။ ထို့ပြင် အကယ်၍ ယင်းသို့တွန်းပို့ဖြစ်ပါက ယင်း "မလွှဲမသွေလွှဲပြောင်းပေးခြင်း" ("ရောင်းချသည့် အစုရှယ်ယာများ" ၏ အကြောင်းခြင်းရာဖြစ်သည့် အစုရှယ်ယာများသည် အောက်ပါအပိုဒ်များ ၁၂ မှ ၁၇ ထိ အပါအဝင် ယင်းသို့ "လွှဲပြောင်းပေးခြင်း" မတိုင်မီ လိုအပ်နိုင်သည့် အာဏာပိုင်၏သဘောတူခွင့်ပြုချက်များ ကို အထောက်အထားပြု၍ အခြားသောအစုရှယ်ယာလက်ရှိဖြစ်သူ ("ဝယ်ယူသည့်အစုရှယ်ယာလက်ရှိ ဖြစ်သူများ" သို့ ရောင်းချနိုင်သည်။

(က) "အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦး" သည် "ကုမ္ပဏီ" နှင့်ဆက်စပ်သည့် ယင်းကအတည်ပြု ထားသည့် သဘောတူညီချက်အရ ယင်း၏တာဝန်များ သို့မဟုတ် အာမခံချက်များ၏ အဓိကချိုးဖောက်မှုတစ်ရပ်ကို ကျူးလွန်ခြင်း၊ ထို့ပြင် ယင်းကုစားမှုအား ကုစားနိုင်မှုကို

ချိုးဖောက်သည့်ကိစ္စတွင် အခြားအစုရှယ်ယာလက်ရှိဖြစ်သူ စာဖြင့်ရေးသား၍ ယင်းသို့ ဆောင်ရွက်ရန်အသေးစိတ်အားဖြင့် လိုအပ်သည်ကို ယင်းအား ရက်ပေါင်း ၃ဂ အတွင်း ကုစားရန် ပျက်ကွက်ခြင်း၊ သို့မဟုတ်

(ခ) (ပြန်လည်တည်ဆောက်ရန်ကိစ္စရပ်အတွက် ကြွေးကျေသည့်အပြီးသတ်စာရင်းရှင်းပြီး ဖျက် သိမ်းခြင်း သို့မဟုတ် အခြားသော "အစုရှယ်ယာဂင်" များက ယခင်စာဖြင့် ရေးသားပြီး ကုမ္ပဏီ ၏ တည်ဆောက်ပုံကို သဘောတူခွင့်ပြုထားသည့် ကုမ္ပဏီများ၏အစုရှယ်ယာလက်ရှိဖြစ် သူများအုပ်စု၏ အားလုံး သို့မဟုတ် အစိတ်အပိုင်းကိုပေါင်းစည်းခြင်းမှအပ) အစုရှယ်ယာ လက်ရှိဖြစ်သူသည် ကြွေးမဆပ်နိုင်သူအဖြစ် တရားရုံးက ကြေညာခံရခြင်း သို့မဟုတ် ဖျက်သိမ်းခြင်း သို့မဟုတ် အပြီးသတ်စာရင်းရှင်းပြီး ဖျက်သိမ်းခြင်း၊ (သို့မဟုတ်)

(ဂ) အာမခံလက်ရှိဖြစ်သူက သိမ်းယူခြင်း သို့မဟုတ် အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦးက ထိန်းသိမ်းထားသည့် အစုရှယ်ယာများ သို့မဟုတ် ပစ္စည်း သို့မဟုတ် အစုရှယ်ယာလက်ရှိ ဖြစ်သူတစ်ဦးဦး၏ ပိုင်ဆိုင် သည့်ပစ္စည်းများ ပေါ်တွင် "ပစ္စည်းထိန်း" တစ်ဦးကို ခန့်ထား ခြင်း၊

(ဃ) အစုရှယ်ယာလက်ရှိဖြစ်သူ၏ မြီရှင်များနှင့်ဖွဲ့စည်းခြင်း သို့မဟုတ် အစီအစဉ် ပြုလုပ်ရန် ပြုလုပ်သည့်ရှာဖွေသည့် အစုရှယ်ယာလက်ရှိဖြစ်သူ သို့မဟုတ် အကယ်၍ ယင်း၏ ပိုင် ဆိုင်သည့်ပစ္စည်းများပေါ်တွင် ပစ္စည်းဖမ်းယူ သိမ်းဆည်းထားခြင်း သို့မဟုတ် ဇာရီမှုဆောင် ရွက်ခြင်း တပ်ရိုက်လျှင်ဖြစ်စေ၊ သို့မဟုတ် တရားစီရင်ချက် ကာလအတွင်းဖြေရှင်းခြင်း မပြု သေးသည့် အစုရှယ်ယာပိုင်ရှင်အားပေးသည့် ငွေကြေးပမာ ဏအပေါ်တွင် နောက်ဆုံး စီရင်ချက်ပေးခြင်း သို့မဟုတ်။

(င) အစုရှယ်ယာလက်ရှိဖြစ်သူသည် ယင်း၏စီးပွားရေးလုပ်ငန်း သို့မဟုတ် ယင်း၏စီးပွားရေး လုပ်ငန်းများအားလုံး၏ တော်သင့်သည့်အစိတ်အပိုင်းကို ဆောင်ရွက်ရန်ရပ်စဲခြင်း။

(စ) အစုရှယ်ယာဝင်တစ်ဦးသည်အခြားအစုရှယ်ယာဝင် တစ်ဦးအား ၎င်းတို့ အကြားချုပ်ဆိုထားသော အစုရှယ်ယာ ဝင်များသဘောတူစာချုပ် (သို့) စီးပွါးရေးလုပ်ငန်းအား ဖက်စပ်လုပ်ကိုင်ရန်သဘောတူစာချုပ် ပါ ဝန်ခံက တိပြုခြင်း များနှင့် အာမခံချက်များအပေါ်အရေးကြီးသောချိုးဖောက်မှုများပြုလုပ်ခြင်း၊ ထိုသို့ ပြု လုပ် ခြင်းကြောင့် ကုမ္ပဏီမှ ဆက်လက်၍လုပ်ငန်းလုပ်ကိုင်နိုင်စွမ်းမရှိခြင်း (သို့) သက်ဆိုင်ရာအစုရှယ်ယာဝင်တစ်ဦးဦးမှ ၎င်း၏တာဝန်များအား သက်ဆိုင်ရာတည်ဆဲဥပဒေနှင့်အညီအောက်ပါအတိုင်းထမ်းဆောင်ရန် အဟန့် အ တား ဖြစ်ခြင်း။

(ဆ) အစုရှယ်ယာလက်ရှိဖြစ်သူ သို့မဟုတ် အစုရှယ်ယာလက်ရှိဖြစ်သူ နှင့် နီးစပ်စွာဆက်စပ်မှု ရှိသည့် ပုဂ္ဂိုလ် (ယင်းအစုရှယ်ယာလက်ရှိဖြစ်သူထံတွင် ထူးခြားသည့်အစုရှယ်ယာလက်ရှိ ဖြစ်သူ၊ သို့မဟုတ် ဒါရိုက်တာ သို့မဟုတ် ထိန်းသိမ်းကြီးကြပ်သူ) သည် (၁) ယင်းအစု ရှယ်ယာလက်ရှိဖြစ်သူ သို့မဟုတ် ဆက်စပ်သည့်ပုဂ္ဂိုလ်နှင့် စီးပွားရေးလုပ်ငန်းဆက်သွယ်မှုများရှိခြင်း သို့မဟုတ် (၂) အခြားသောအစုရှယ်ယာလက်ရှိဖြစ်သူအား ပြစ်ဒဏ်ပေးခြင်း သို့မဟုတ် တားဆီးမိန့်ပေးခြင်းခံရခြင်း သို့မဟုတ် (၃) အခြားသောအစုရှယ်ယာလက်ရှိ ဖြစ်သူနှင့် မြန်မာနိုင်ငံတွင် စီးပွားရေးလုပ်ရန် မဖြစ်နိုင်ခြင်း သို့မဟုတ် တရားမဝင်ခြင်းမှ အခြားသောအစုရှယ်ယာလက်ရှိဖြစ်သူကို မည်သည့်နိုင်ငံတွင်မဆို တားဆီးမိန့်၊ စည်းမျဉ်း စည်းကမ်း၊ ညွှန်ကြားချက် သို့မဟုတ် အမိန့်အရ တားဆီးခံရခြင်း။

၁၃။ "ရောင်းချသည့်အစုရှယ်ယာများ" ၏ တန်ဖိုးသည် "ကုမ္ပဏီ" ၏ "စုစုပေါင်းမြင်သာသော ပိုင်ဆိုင် သည့် ပစ္စည်းများ၏ တန်ဖိုး" (အကယ်၍ အကျုံးဝင်သက်ဆိုင်လျှင် "ပေါင်းစည်းခြင်းအခြေခံ" ဖြင့်) ဖြစ်ရ မည်။ သို့သော် နာမည်ကောင်းဂုဏ်သတင်း၏အစိတ်အပိုင်းကိုပယ်ပြီး "စာရင်းစစ်များ" က ဆုံးဖြတ်သည့် အတိုင်း ယင်းတန်ဖိုး၏ပျက်ကွက်မှု လျော့နှုန်း

၁၅% ကို လျှော့ရမည်ဖြစ်သည့်အပြင် ယင်း၏ ဆုံးဖြတ်ချက် သည် "စာချုပ်ဝင်များ" အားလုံးပေါ်တွင် နောက်ဆုံးနှင့်အပြီးသတ်ဖြစ်ရမည်။ ("ဆောင်ရွက်ရန်တာဝန်ရှိ သောလွှဲပြောင်းပေးခြင်းတန်ဖိုး")

၁၄။ အပိုဒ် ၁၅ ကို အထောက်အထားပြု၍ "အစုရှယ်ယာလက်ရှိဖြစ်သူ" တစ်ဦး ("ပျက်ကွက်သည့်အစု ရှယ်ယာလက်ရှိဖြစ်သူ") နှင့် စပ်လျဉ်း၍ "မဖြစ်မနေလွှဲပြောင်းပေးရမည့်ဖြစ်ရပ်" ပေါ်ပေါက်လျှင် ယင်းသည် ဖြစ်နိုင်သမျှဆောလျင်စွာ အခြားသော "အစုရှယ်ယာလက်ရှိဖြစ်သူ" နှင့် "ကုမ္ပဏီ" ထံသို့ ယင်းကိစ္စကို နို့တစ်စာပေးပို့ရမည်ဖြစ်ပြီး အကယ်၍ ထိုသို့မပို့ပါက အဆိုပါ "မလွဲမသွေ လွှဲပြောင်းပေးခြင်းဖြစ်ရပ်" ကို အခြား "အစုရှယ်ယာလက်ရှိဖြစ်သူ" သိရှိလာသည့်နေ့ရက်တွင် ယင်းနို့တစ်စာကိုပေးပြီးဖြစ်သည်ဟု မှတ် ယူရမည်။ "ကုမ္ပဏီ" သည် လက်တွေ့ဖြစ်နိုင်ချေရှိသည့် အစောဆုံးအချိန်တွင် သို့သော် "ရုံးဖွင့်ရက်" အနည်းဆုံး (၃၀) ရက်အတွင်း "စာရင်းစစ်များ" အား "မလွဲမသွေလွှဲပြောင်းပေးခြင်းတန်ဖိုး" ကို ဆုံးဖြတ်ရန် ညွှန်ကြားရမည်။ အခြားသော "အစုရှယ်ယာလက်ရှိဖြစ်သူ" သည် စာရင်းစစ်များ" ထံမှ "မလွဲမသွေ လွှဲပြောင်းပေးခြင်းတန်ဖိုး" ၏ နို့တစ်စာကို လက်ခံရရှိပြီး ၁၅ (တစ်ဆယ့်ငါးရက်) အတွင်း ယင်း၏ "ရောင်း ချသည့်အစုရှယ်ယာများ" အားလုံးကို ယင်းတန်ဖိုးဖြင့်ဝယ်ယူရန် ပျက်ကွက်သည့် "အစုရှယ်ယာလက်ရှိ ဖြစ်သူ" ထံသို့ နို့တစ်စာပေးရန် အခွင့်အရေးရှိသည်၊

၁၅။ အပိုဒ် ၁၂ မှ ၁၇ ထိပါ ပြဋ္ဌာန်းချက်များနှင့်အညီ "ရောင်းချသည့်အစုရှယ်ယာများ" ဝယ်ယူခြင်းနှင့် ရောင်းချခြင်းကိုအောက်ပါစည်းကမ်းချက်များပေါ်တွင် ပြုလုပ်ရမည် -

(က) "ရောင်းချသည့်အစုရှယ်ယာများ" လွှဲပြောင်းခြင်းကို "ပျက်ကွက်သည့် အစုရှယ်ယာလက်ရှိဖြစ်သူများ" ပေါ်တွင် နို့တစ်စာချမှတ်ပေးသည့်နေ့ရက် ("လွှဲပြောင်း ပေးခြင်းရက်စွဲ") ပြီးနောက် အစုရှယ်ယာများလက်ရှိဖြစ်သူ သဘောတူသည့် ယင်းသင့် တော်သည့်အချိန်နှင့် နေရာတွင် "ရုံးဖွင့်ရက်" ၁၅ (တစ်ဆယ့်ငါး) ရက်တွင် ပြီးပြတ်ရမည်။ ယင်းအချက်ပျက်ကွက်ပါက "ကုမ္ပဏီ" ၏ မှတ်ပုံတင်ရုံးတွင်ပြုလုပ်ရမည်။

(ခ) ရောင်းချသည့် အစုရှယ်ယာလက်ရှိဖြစ်သူသည် "ရောင်းချသည့်အစုရှယ်ယာ" များနှင့် စပ်လျဉ်း၍ အောက်ပါကိစ္စရပ်များအတွက် "လွှဲပြောင်းပေးသည့်နေ့ရက်" တွင် သို့မဟုတ် ယင်းမတိုင်မီ ဝယ်ယူသူသို့ လွှဲပြောင်းပေးရမည် -

(၁) အပိုဒ် ၈ တွင် သဘောတူခွင့်ပြုသည့်ပုံစံတွင် အစုရှယ်ယာလွှဲပြောင်းခြင်းကို နည်းလမ်း တကျအကောင်အထည် ဖော်ရမည်၊ ထို့အပြင်

(၂) အထက်ပါအပိုဒ် ၁၀ (က) နှင့် (ခ) တို့အရ လိုအပ်သည့်စာချုပ်စာတမ်းများ နှင့်

(၃) "ကိုယ်စားလှယ်လွှဲစာ" ယင်းတွင် ဆန္ဒမဲပေးခွင့်အပါအဝင် သို့သော် ယင်းကို သာကန့်သတ်ထားသည်မဟုတ်ဘဲ ယင်းပုံစံဖြင့် "ရောင်းချသည့်အစုရှယ်ယာ များနှင့်စပ်လျဉ်း၍ ပိုင်ဆိုင်မှုအခွင့်အရေးများအားလုံးကို ကျင့်သုံးရန် ဝယ်ယူသူက ဝယ်ယူသူဆောင်ရွက်နိုင်အောင် အမည်စာရင်းတင်သွင်းမည်ဖြစ်သည့် အဆိုပါ ပုဂ္ဂိုလ်ကို ဦးစားပေးဖော်ပြထားရမည်။

(ဂ) "ဝယ်ယူသူအစုရှယ်ယာလက်ရှိဖြစ်သူ" သည် လွှဲပြောင်းပေးသည့်နေ့ရက်တွင် ကိစ္စရပ် အတွက် ယင်းအားအကြောင်းကြားသည့် "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" ၏ ငွေစာရင်းသို့ "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" ထံသို့ "ရောင်းချသည့်အစု ရှယ်ယာများ" အတွက် ကြေးနန်းလွှဲပြောင်းပေးခြင်းဖြင့် အဖိုးစားနားပေးနိုင်သည်၊ (အကယ်၍ ငွေလွှဲပြောင်းပေးမည့်အစုရှယ်ယာများအတွက် ရန်ပုံငွေများအတွက် သတ် မှတ်ထားသည့်အတိုင်း မမြင်မတွေ့ရပါက လွှဲပြောင်းပေးခြင်းသည် ပျက်ပြယ်သည်။ ထို့ပြင်

(ဃ) "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" သည် အစုရှယ်ယာလွှဲပြောင်းပေးခြင်းကို သဘောတူခွင့်ပြုချက်နှင့်စပ်လျဉ်း၍ မြန်မာဥပဒေအရ လိုအပ်သည့်လျှောက်ထားချက် ပြုလုပ်ရန် သို့မဟုတ် သဘောတူခွင့်ပြုချက်ပေးရန်အပါအဝင် မြန်မာဥပဒေနှင့်အညီ လွှဲပြောင်းပေးခြင်းကို တရားဝင်မှတ်ပုံတင်ခြင်းသေချာစေရန် ဝယ်ယူသူနှင့် ပူးပေါင်း ဆောင်ရွက်ရမည်၊

၁၆။ အကယ်၍ (ထို့ပြင် အမြဲတစေခြွင်းချက်ပြုထားသည်မှာ အပိုဒ် ၁၀(ခ) နှင့် ၁၅ (ဃ) တွင် ရည်ညွှန်း ထားသည့် အာဏာပိုင် သို့မဟုတ် အဖွဲ့၏သဘောတူခွင့်ပြုချက်ကို ကြိုတင်ရရှိပြီးဖြစ်လိမ့်မည်) "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" သည် အပိုဒ် ၁၅ တွင် ဖော်ပြထားသည့် ယင်း၏ဆောင်ရွက် ရန်တာဝန်များကို မလိုက်နာလျှင် "ကုမ္ပဏီ" သည် ယင်း၏ကိုယ်စားလိုအပ်သည့် လွှဲပြောင်းပေးမှုကို အကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် လွှဲပြောင်းပေးရန် "ဒါရိုက်တာ" တစ်ဦးထံသို့ အခွင့်အာဏာပေး နိုင်သည်။ ဝယ်ယူသည့်ငွေကို "ကုမ္ပဏီ" က လက်ခံရရှိခြင်းသည် "ဝယ်ယူသည့်အစုရှယ်ယာလက်ရှိဖြစ်သူ ထံသို့ ကောင်းမွန်သည့်လွှဲပြောင်းပေးမှုဖြစ်ရမည်။ (ယင်း "ဝယ်ယူသည့်အစုရှယ်ယာလက်ရှိဖြစ်သူ" သည် "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" က ရရှိမည့်ယင်းငွေရပ်များကို သေချာပေါက်ရရှိစေရန် တာဝန်မရှိစေရ။ စာချုပ်ဝင်များက ဝန်ခံကတိပြုပြီး သဘောတူညီကြသည်မှာ "ဝယ်ယူသည့်အစုရှယ်ယာ လက်ရှိဖြစ်သူ" အား "ရောင်းချသည့်အစုရှယ်ယာများ၏လက်ရှိဖြစ်သူအဖြစ် မှတ်ပုံတင်ပြီးပါက လွှဲပြောင်း ပေးခြင်းကို အပြီးသတ်ဖြစ်သည်ဟု မှတ်ယူရမည်။

၁၇။ အကယ်၍ "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" သည် ဤအပိုဒ်နှင့်အညီ "ရောင်းချခြင်း အစုရှယ်ယာများ" လွှဲပြောင်းပေးရန် ယင်း၏ဆောင်ရွက်ရန်တာဝန်များကို လိုက်နာရန် ပျက်ကွက်လျှင် သို့မဟုတ် လွှဲပြောင်းပေးရန် ငြင်းပယ်ရန် ငြင်းပယ်လျှင် "ပျက်ကွက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူ" သည် ဤ "သဘောတူညီချက်" ဖွဲ့စည်းပုံစည်းမျဉ်းများ သို့မဟုတ် အခြားနည်းအရ ကုမ္ပဏီ၏စီမံခန့်ခွဲမှု သို့မဟုတ် အမြတ်ခွန်များတွင် ပါဝင်ခွင့်နှင့်ဆက်စပ်၍ အခွင့်အလမ်းမရှိစေရ၊ "ပျက်ကွက်သည့်အစုရှယ် ယာ လက်ရှိဖြစ်သူ (သို့မဟုတ် ပိုင်ဆိုင်ခွင့်ကိုဆက်ခံသူ) က ခန့်အပ်သည့် "ဒါရိုက်တာများ" သည် အောက်ပါတို့ကို မပြုလုပ်ရ -

(က) အစုရှယ်ယာလက်ရှိဖြစ်သူများ အစည်းအဝေး သို့မဟုတ် ဘုတ်အဖွဲ့အစည်းအဝေးတွင် ဆန္ဒမဲပေးခြင်း။

(ခ) အထမြောက်သည့်ဦးရေပြည့်မြောက်ရန် "ဒါရိုက်တာများ" အစည်းအဝေးသို့ တက်ရောက် ရန် ပျက်ကွက်ခြင်း။

(ဂ) "ကုမ္ပဏီ" ထံမှ သတင်းအချက်အလက်တစ်စုံတစ်ရာကို ရရှိရန် သို့မဟုတ် မေတ္တာရပ်ခံ ပိုင်ခွင့်ရှိခြင်း။

<u>မတည်ငွေရင်းပြောင်းလဲခြင်း</u>

၁၈။ "ဒါရိုက်တာများ" သည် အရပ်ရပ်ဆိုင်ရာအစည်းအဝေးတွင်ဖြစ်စေ၊ စာဖြင့်ရေးသားထားသည့် ဆုံး ဖြတ်ချက်ဖြင့်ဖြစ်စေ၊ "ကုမ္ပဏီ" ၏အစုရှယ်ယာလက်ရှိဖြစ်သူများ၏ တစ်ညီတစ်ညွတ်တည်းဆန္ဒမဲဖြင့် -

(က) အစုရှယ်ယာမတည်ငွေရင်းကို ဆုံးဖြတ်ချက်ဖြင့်ပြဋ္ဌာန်းသည့်အတိုင်း အဆိုပါပမာဏအား အစုရှယ်ယာများအဖြစ် ပိုင်းခြားရန် အဆိုပါငွေရပ်ကို တိုးမြှင့်နိုင်သည်။

(ခ) အစုရှယ်ယာများကို ထုတ်ဝေနိုင်ရာ ယင်းတို့သည် အဆိုပါအစုရှယ်ယာများကို အပေါင် ပစ္စည်းရွေးယူရန် သို့မဟုတ် ယင်းတို့အား သာမန်အစုရှယ်ယာများအဖြစ်သို့ ပြောင်းလဲ ရန် လက်ရှိဖြစ်သူ သို့မဟုတ် "ကုမ္ပဏီ" ၏ အခွင့်အရေးများအပါအဝင် အစုရှယ်ယာများ က အခါအားလျော်စွာ ဆုံးဖြတ်နိုင်သည့်အတိုင်း အမြတ်ဝေစု၊ ဆန္ဒမဲပေးခြင်း၊ ဖျက်သိမ်း သည်တွင် မတည်ငွေရင်းကို

ပြန်ပေးခြင်း သို့မဟုတ် အခြားနည်းဖြင့် ယင်းဦးစားပေး သို့ မဟုတ် ရွေ့ဆိုင်းထားသည့် သို့မဟုတ် အခြားသောအထူးအခွင့်အရေးများ သို့မဟုတ် ကန့်သတ်ချက်များပါရှိသည့် အထက်ပါအတိုင်း အစုရှယ်ယာများကို ထုတ်ဝေခြင်း။

(ဂ) "ကုမ္ပဏီ" ၏ ခွင့်ပြုပြီးသော သို့မဟုတ် ထုတ်ဝေပြီးသော သို့မဟုတ် ချေးငွေ မတည်ငွေ ရင်းကို ပြောင်းလဲခြင်း သို့မဟုတ် ယင်းအစုရှယ်ယာ သို့မဟုတ် ချေးငွေ၊ မတည်ငွေရင်း တွင် စွဲကပ်ပါရှိသည့် အခွင့်အရေးများကို ပြောင်းလဲခြင်း၊ ဖျက်သိမ်းခြင်း သို့မဟုတ် ခွင့်ပြုခြင်း။

၁၉။ အစုရှယ်ယာမတည် ငွေရင်းတိုးပွားစေရန် ခွင့်ပြုသည့် ဆုံးဖြတ်ချက်အရ ပေးနိုင်သည့် ဆန့်ကျင် ဘက် အနေအထားသို့ ဦးတည်နေသည်ကို အထောက်အထားပြု၍ အသစ်ဖြစ်သည့် သာမန် အစုရှယ် ယာများ အားလုံးကို မထုတ်ဝေမီ ကြိုတင်ကမ်းလှမ်းသည့်နေ့တွင် လက်ခံရရှိ ပိုင်ဆိုင်ခွင့် ရှိသည့် ယင်း ပုဂ္ဂိုလ်များသို့ ကမ်းလှမ်းရမည်ဖြစ်ရာ ယင်းတို့ လက်ဝယ်ရှိသည့်တည်ဆဲသာမန်အစုရှယ်ယာများပမာဏနှင့် အနီးကပ်ဆုံး တူညီသည့်အချိုးအစားအတိုင်းဖြစ်ရမည်။ ကမ်းလှမ်း ချက်ကို နို့တစ်စာဖြင့် ပြုလုပ် ရမည် ဖြစ်ပြီး၊ ယင်းတွင် ကမ်းလှမ်းသည့်သာမန်အစုရှယ်ယာများ အရေအတွက်ကို သတ်သတ်မှတ်မှတ် ဖော်ပြပေးရမည့်အပြင်၊ အကယ်၍ လက်မခံနိုင်ပါက ယင်းကမ်းလှမ်းချက်ကို ငြင်းပယ်ဟု ယူဆရသည့် အချိန်ကာလ ကန့်သတ်ချက်သည်လည်းပါရှိရမည်။ ထို့ပြင် ယင်းအချိန်ကာလ ကုန်လွန်ပြီးနောက် ထိုသူသည် ကမ်းလှမ်းသည့် အစုရှယ်ယာများကို လက်ခံရန် ငြင်းပယ်သည်ဆိုသည်ကို ထိုသူထံမှ အတိအလင်းရရှိသည့် တွင်း(သို့မဟုတ်)အကယ်၍ အစုရှယ်ယာ လက်ရှိဖြစ်သူသည် ထုတ်ဝေမည့် အစုရှယ်ယာများအနက် ယင်း၏ ဝေစုအတွက် ပေးသွင်းရမည့်ငွေများကို ပေးသွင်းရန် ပျက်ကွက်လျှင် ဒါရိုက်တာများသည် အဆိုပါအစုရှယ်ယာများကို ကုမ္ပဏီအတွက်အကျိုး ဖြစ်ထွန်းဆုံးနည်းလမ်းဟုငင်း တို့သင့်တော်ဟုထင်မြင် သည့်အတိုင်း စီမံခန့်ခွဲနိုင်သည်။

<u>အရပ်ရပ်ဆိုင်ရာ အစည်းအဝေးများ</u>

၂၀။ အရပ်ရပ်ဆိုင်ရာအစည်းအဝေးတစ်ရပ်ကို စာဖြင့်ရေးသား သဘောတူညီထားသည့်အတိုင်း အစုရှယ်ယာလက်ရှိဖြစ်သူများ သတ်မှတ်သည့် အချိန်နှင့်နေရာတို့တွင် တစ်ဆယ့်နှစ်(၁၂)လတိုင်းတွင် အနည်းဆုံးတစ်ကြိမ် ကျင်းပရမည်။

၂၁။ အထက်ဖော်ပြပါအရပ်ရပ်ဆိုင်ရာ အစည်းအဝေးများကို သာမန်အစည်းအဝေးများဟု ခေါ်ဆိုရမည်။ အခြားသော အရပ်ရပ်ဆိုင်ရာ အစည်းအဝေးများကို အထူးအစည်းအဝေးများဟု ခေါ်ဆိုရမည်။

<u>အရပ်ရပ်ဆိုင်ရာအစည်းအဝေးများတွင် လုပ်ငန်းစဉ်အဆင့်ဆင့်</u>

၂၂။ အထူးဆုံးဖြတ်ချက်များနှင့်စပ်လျဉ်း၍ မြန်မာကုမ္ပဏီအက်ဥပဒေပုဒ်မ-၈၁၊ ပုဒ်မခွဲ(၂)၏ ပြဋ္ဌာန်းချက် များအရ၊ နှစ်ပတ်လည် အရပ်ရပ်ဆိုင်ရာအစည်းအဝေးများအတွက်အနည်းဆုံးရုံးဖွင့်ရက်နှစ်ဆယ့်တစ်(၂၁)နှင့်အထူးအရပ်ရပ်ဆိုင်ရာ အစည်း အဝေး များအတွက်အနည်းဆုံးရုံးဖွင့်ရက်ဆစ်ဆယ့်လေး(၁၄)ရက်(နို့တစ်စာကိုအရောက်ပေးသည့်နေ့(သို့မဟုတ်) အရောက် ပေး သည်ဟု မှတ်ယူရ သည့်နေ့ မပါဝင်၊ သို့သော် နို့တစ်စာထုတ်သည့်နေ့ပါဝင်သည်) ။ယင်းတွင်အစည်းအဝေး ကျင်းပ သည့်နေရာ၊ နေ့ရက်နှင့် အချိန်အပြင်၊အထူးစီးပွါးရေးလုပ်ငန်းရှိသည်တွင်ယင်းစီးပွါးရေးလုပ်ငန်း၏ ယေဘူယျသဘော သဘာဝ တို့ကိုဤမှနောက် တွင်ဖော်ပြ ထား သည့်အတိုင်းပေးရမည်၊(သို့မဟုတ်)အရပ်ရပ်ဆိုင်ရာ အစည်းအဝေးတွင် ကုမ္ပဏီ ကပြဋ္ဌာန်း သည့်အတိုင်း အကယ်၍ရှိ လျှင်၊ယင်းနည်းလမ်းအတိုင်းပေးရမည်။

၂၃။ အစည်းအဝေးသည် စီးပွားရေးလုပ်ငန်းသို့ ဆက်လက်ဆောင်ရွက်သည့်အချိန်တွင် အဖွဲ့ဝင်များ သည် အထ မြောက် သည့်ဦး ရေမတက်ရောက်ပါက မည်သည့်စီးပွားရေးလုပ်ငန်းကိုမျှ အရပ်ရပ်ဆိုင်ရာ အစည်းအဝေးတွင် ဆောင်ရွက်ခြင်းမပြုရ။ ထို့ အပြင် အစည်းအဝေးအထမြောက်ရန် အနည်းဆုံးလိုအပ်သည့်လူဦးရေမှာ အစုဝင် ကိုယ်တိုင်သော်လည်းကောင်း (သို့) ကိုယ်စား

လုယ်ဖြင့်သော်လည်းကောင်း အနည်းဆုံးနှစ်ယောက်ရှိရမည်ဖြစ်ပြီး ၎င်းတို့တစ်ဦးခြင်းသည် ရှယ်ယာဝင်တစ်ဦးစီ အားကိုယ်စားပြုသည်။ အစည်းအဝေးစတင်ရန် သတ်မှတ်ထားသည့်အချိန်မှ (၂) နာရီအတွင်း အစည်းအဝေးအထမြောက်ရန် အနည်းဆုံးလိုအပ်သည့်လူဦးရေမရှိသဖြင့် အစည်းအဝေးမကျင်းပနိုင်ပါက အဆိုပါအစည်းအဝေးအား ခုနစ်ရက်ကြာပြီး နောက် အဆိုပါနေရာတွင် အဆိုပါအချိန်အတိုင်း ပြဌာန်းချက်များ နှင့်အညီကျင်းပမည့် အစုရှယ်ယာဝင်များအစည်းအဝေးသို့ ရွှေ့ဆိုင်းရမည်ဖြစ်သည်။ သို့သော် ထိုသို့ရွှေ့ဆိုင်း ထားသော်လည်း အစည်းဝေးစတင်ရန်သတ်မှတ်ထားသည့်အချိန်မှ (၂) နာရီအတွင်း အစည်းအဝေး အထမြောက်ရန် အနည်း ဆုံးလိုအပ်သည့်လူဦးရေမရှိသဖြင့် အစည်းအဝေးမကျင်းပနိုင်ပါက အဆိုပါ အစည်း အဝေးအား နောက်ထပ်(၂) ရက်အကြာ တွင် အဆိုပါအချိန် နှင့် အဆိုပါနေရာတွင် ကျင်း ပရန်ထပ်မံ၍ ရွှေ့ဆိုင်းရမည်ဖြစ်သည်။ သို့သော်ထိုသို့ဒုတိ ယအကြိမ်ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင် အစည်း အ ဝေးစတင်ရန်သတ်မှတ်ထားသည့်အချိန်မှ (၂) နာရီအတွင်း အစည်းအဝေးအထမြောက်ရန် အနည်း ဆုံးလိုအပ် သည့် လူဦး ရေမရှိပြန်ပါက ကိုယ်တိုင်တက်ရောက် သောမည်သည့်အစုရှယ်ယာဝင်တစ်ဦး (သို့) ၎င်း၏ကိုယ်စားလှယ် တစ်ဦးဖြင့် သော်လည်း ကောင်းအဆိုပါ အစည်းအဝေးအားကျင်းပနိုင်သည်။

၂၄။ ဒါရိုက်တာများဘုတ်အဖွဲ့၏ဥက္ကဌ၊အကယ်၍ရှိလျှင်၊သည်" ကုမ္ပဏီ"၏အရပ်ရပ်ဆိုင်ရာ အစည်းအဝေးတိုင်း တွင်သဘာပတိ အဖြစ်ဆောင်ရွက်ရမည်။

၂၅။ အကယ်၍ယင်းသို့ ဥက္ကဌမရှိလျှင် (သို့မဟုတ်) ထိုသူသည် အစည်းအဝေးကျင်းပရန်အတွက်သတ် မှတ်ထားသည့် အချိန်ပြီးနောက် တစ်ဆယ့်ငါးမိနစ်အတွင်း မတက်ရောက်ပါက (သို့မဟုတ်) ဥက္ကဌ အဖြစ်ဆောင်ရွက်ရန် ဆန္ဒမရှိပါက၊ အစည်းအဝေးသို့တက်ရာက်သည့် အစုရှယ်ယာလက်ရှိဖြစ်သူများသည်ယင်းတို့အနက်မှတစ်ဦးကို အစည်းအဝေး၏ ဥက္ကဌအဖြစ်ရွေးချယ်ရမည်။

၂၆။ အစုရှယ်ယာလက်ရှိဖြစ်သူများသည် အစုရှယ်ယာလက်ရှိဖြစ်သူများအစည်းအဝေးတစ်ရပ် တွင်တယ်လီဖုန်းဖြင့်ဖြစ်စေ၊ ဗီဒီယိုကွန်ဖရင့်ဖြင့်ဖြစ်စေ၊ ရုပ်မြင်သံကြားဖြင့်ဖြစ်စေ၊ အလားတူဆက် သွယ်ရေးပစ္စည်းတစ်စုံတစ်ရာဖြင့်ဖြစ်စေပါဝင်နိုင်သည်။ ယင်းသို့ဖြင့် အစည်းအဝေးတွင် ပါဝင်သည့် ပုဂ္ဂိုလ် များအားလုံးသည် တစ်ဦးနှင့်တစ်ဦးကြားနိုင်ရမည်ဖြစ်ပြီး၊ ယင်းသို့သောဖြစ်ရပ်တွင် ယင်းအစုရှယ်ယာ လက်ရှိဖြစ်သူများသည် အစည်းအဝေးသို့တက်ရောက်သည်ဟုမှတ်ယူရမည်။ အထက်ပါနည်းလမ်းအတိုင်းအစည်းအဝေးတွင်ပါဝင်သည့် အစုရှယ်ယာလက်ရှိဖြစ်သူသည် အစည်းအဝေးတွင် အထ မြောက်သည့်ဦးရေအတွက်တက်ရောက်ကြောင်းသေချာစေရန် ထည့်သွင်းရေတွက်ရမည်။ တယ်လီဖုန်း ကွန်ဖရင့်၊ ဗီဒီယိုကွန်ဖရင့်၊ ရုပ်မြင်သံကြား သို့မဟုတ် အလားတူဆက်သွယ်ရေး ပစ္စည်းတစ်စုံတစ်ရာ ဖြင့်ပြုလုပ်သည့် အစည်းအဝေးလုပ်ငန်းစဉ်များ၏ အစည်းအဝေးမှတ်တမ်းကိုအစည်းအဝေး၏ သဘာ ပတိ ကလက်မှတ်ရေးထိုးပါက ယင်းလုပ်ငန်းစဉ်များ၏ အပြီးသတ်အထောက်အထား ဖြစ်ရမည်အပြင်၊ လိုအပ်သောလုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီမှုရှိရမည်။

## <u>အစုရှယ်ယာလက်ရှိဖြစ်သူများဆန္ဒမဲများ</u>

၂၇။ ဥပဒေ(သို့) ပြဌာန်းချက် ၂၈ တွင်ဖော်ပြထားသည့်သီးခြားကိစ္စရပ်များမှလွဲ၍ အစည်းအဝေး မှဆုံးဖြတ်ချက်များအား မဲပေး သောရှယ်ယာအများစုအရေအတွက်ဖြင့်အတည်ပြုနိုင်သည်။ အစည်းအဝေးတွင် အဆိုပါရှယ်ယာတစ်စုသည်မဲပေးခွင့်တစ်ခုနှင့်ညီမျှသည်။

၂၈။ "ကုမ္ပဏီ" သည် အောက်ပါအချက်တစ်ရပ်မပါဘဲ အောက်တွင်ဖော်ပြထားသည့်လုပ်ငန်းဆောင် တာတစ်ရပ်ရပ်ကို ဆောင်ရွက်ခြင်းမပြုရ။ (၁) အစုရှယ်ယာများအစည်းအဝေးတွင် တရားဝင် တစ်ညီတစ်ညွတ်တည်းဆုံးဖြတ်ချက်ချမှတ်ခြင်း သို့မဟုတ် (၂) အကယ်၍အောက်တွင်ဖော်ပြထားသည့်အကြောင်းခြင်းရာသည် အစုရှယ်ယာလက်ရှိဖြစ်သူများ ဆုံးဖြတ်ချက်ဖြင့်

ဆောင်ရွက်ရန်မလိုပါက ဒါရိုက်တာ များအားလုံးက စာဖြင့်ရေးသားထားသည့် ဆုံးဖြတ်ချက် သို့မဟုတ် ဘုတ်အဖွဲ့၏ အစည်းအဝေး တွင်ဆုံးဖြတ်ခြင်း -

(က) အခြားကုမ္ပဏီနှင့် "ကုမ္ပဏီ" ပေါင်းစည်းခြင်း၊ "ကုမ္ပဏီ" ကို ခွဲခြမ်းခြင်းဖြင့် သီးခြား ကုမ္ပဏီဖွဲ့စည်းခြင်း သို့မဟုတ် အခြားကုမ္ပဏီက "ကုမ္ပဏီ" ကိုရယူခြင်း။

(ခ) "ကုမ္ပဏီ" ၏ ကြွေးမြီမဆပ်နိုင်သူအဖြစ် တရားရုံးကကြေညာရန်အတွက် တရားစွဲဆိုတင် ပို့ခြင်း၊ ပြန်လည်ဖွဲ့စည်းခြင်း၊ ဖွဲ့စည်းခြင်း၊ အပြီးသတ်စာရင်းရှင်းပြီး ဖျက်သိမ်းခြင်း၊ ဖျက်သိမ်းခြင်း၊ သို့မဟုတ် အလားတူလုပ်ထုံးလုပ်နည်းများ။

(ဂ) စီးပွားရေးလုပ်ငန်း၏ အဓိကပိုင်ဆိုင်သည့်ပစ္စည်းများ သို့မဟုတ် အစိတ်အပိုင်းများကို ရောင်းချခြင်း၊ အဓိကငှားရမ်းခြင်းများကို ရပ်စဲခြင်း၊ မြန်မာနိုင်ငံတွင် အသစ်ဖြစ်သောနှင့်၊ သို့မဟုတ် အသုံးပြုပြီးကားများကိုရောင်းချရန်အတွက် လုပ်ငန်းသစ်ပေါင်းထည့်တည် ထောင်ခြင်းနှင့် မြန်မာနိုင်ငံတွင် စီးပွားရေးလုပ်ငန်းခွဲများနှင့် အခြားနေရာများတည်ထောင် ခြင်း။

(ဃ) ဤ "သဘောတူညီချက်ပါ ပြဋ္ဌာန်းချက်များနှင့်အညီပြုလုပ်ရန်လိုအပ်သည့်ကိစ္စများနှင့် "အကျုံးဝင်သက်ဆိုင်သည့် ဥပဒေအရ ခွင့်ပြုသည့်ကိစ္စရပ်များမှအပ ကုမ္ပဏီ၏သင်းဖွဲ့ မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် အခြားဖွဲ့စည်းပုံဆိုင်ရာ စာရွက်စာတမ်းကို ပြင်ဆင်ခြင်း။

(င) သာမန်စီးပွားရေးလုပ်ငန်းဆောင်ရွက်သည့် လုပ်ငန်းဆောင်ရွက်ချက်များမှအပ ငွေချေးငှား သည့် သဘောတူညီချက်များ၊ ငှားရမ်းခြင်းဆိုင်ရာငွေကြေးထည့်ဝင်ခြင်းများ၊ စီးပွားရေး အဖွဲ့အစည်းစာချုပ်ကိစ္စရပ်များ၊ တိုးချဲ့ထားသည့် ဘဏ်ဆိုင်ရာငွေပိုထုတ်ယူသည့် အခွင့် အရေးများ၊ အသေးစားရောင်းချသူများကို ငွေကြေးထောက်ပံ့ခြင်း၊ ကုမ္ပဏီ၏ရရှိမည့်ငွေ စာရင်းများကို လျော့နှုန်းဖြင့်ရောင်းချခြင်း သို့မဟုတ် အလားတူကိစ္စရပ်များမှတဆင့် "ကုမ္ပဏီ" တွင် ကြွေးမြီသစ် သို့မဟုတ် အလားတူဆောင်ရွက်ရန်တာဝန်ယူမှုများ ဖြစ်ပေါ် ခြင်း။

(စ) "ကုမ္ပဏီ" က အခြား "စာချုပ်ဝင်" သို့ဖြစ်စေ၊ အခြားသူသို့ဖြစ်စေ ငွေချေးငှားခြင်း။

(ဆ) အခြား "စာချုပ်ဝင်" သို့မဟုတ် အခြားသူ၏ကြွေးမြီများအတွက် အာမခံများ သို့မဟုတ် အာမခံပြဋ္ဌာန်းချက်များပေးခြင်း။

(ဇ) အနီးကပ်ညှိနှိုင်းစေ့စပ်ခြင်း သို့မဟုတ် ဥပဒေအရ ဆောင်ရွက်ရန်တာဝန်ရှိခြင်းများ ပါဝင် သည့်နည်းလမ်းများမှအပ "ကုမ္ပဏီ" ၏ စီးပွားရေးလုပ်ငန်းများ၏ သမရိုးကျဆောင်ရွက် ချက်မှပေါ် ပေါက်လာသည့် အခြားသောဆောင်ရွက်ချက်များနှင့် လုပ်ငန်းဆောင်ရွက်ချက်များ။

(ဈ) "ကုမ္ပဏီ" သို့မဟုတ် ယင်း၏"စီးပွားရေးလုပ်ငန်းကို စိစစ်သိရှိနိုင်ရန်အတွက် လက်ရှိ အသုံးပြုနေသည့် ကုမ္ပဏီ၏ကုန်သွယ်ရေးအမည်များ၊ လိုဂိုတံဆိပ်များနှင့်အလားတူ အမှတ်အသားများကို ပြန်လည်တံဆိပ်သတ်မှတ်ခြင်း သို့မဟုတ် ပြင်ဆင်ခြင်း။

(ည) စီးပွားရေးစီမံချက်တွင် အခြားနည်းပြဋ္ဌာန်းထားသည်မှအပ "ကုမ္ပဏီ" က ပိုင်ဆိုင်သည့် ပစ္စည်းများ၊ အခြားကုမ္ပဏီ သို့မဟုတ် ကုမ္ပဏီများ၏စီးပွားရေးလုပ်ငန်းများ သို့မဟုတ် လုပ်ငန်းဆောင်တာများကို ရယူခြင်း (စီးပွားရေးလုပ်ငန်းဆောင်ရွက်ချက်တစ်ရပ်ဖြင့် ဖြစ်စေ၊ အများဖြင့်ဖြစ်စေ) ရယူခြင်း။

(ဋ) သက်ဆိုင်ရာငှားရမ်းခြင်း၊ သို့မဟုတ် မတည်ငွေရင်းသုံးစွဲမှုအချက်တစ်ရပ်နှင့်စပ်လျဉ်း၍ "စီးပွားရေးစီမံချက်" တွင် ပြဋ္ဌာန်းထားသည့်ပမာဏ၏ ငါးရာခိုင်နှုန်း (၅%) ထက်ကျော် လွန်သော ကုမ္ပဏီအုပ်စု၏ငှားရမ်းခြင်းအသစ် သို့မဟုတ်

မတည်ငွေရင်းသုံးစွဲမှုတစ်ရပ် ပေါ်ပေါက်ခြင်း၊ ထို့ပြင် ပြဋ္ဌာန်းချက်မရှိပါက တစ်ဆယ့်နှစ်လတာကာလအတွင်း အမေရိကန်ဒေါ်လာ ၅၀,၀၀၀ ထက်ပိုသော ကုမ္ပဏီများအုပ်စု၏ စုစုပေါင်းငှားရမ်းခြင်း၊ သို့မဟုတ် မတည်ငွေရင်းအသုံးစရိတ်ပေါ်ပေါက်ခြင်း။

(၅) "ကုမ္ပဏီ" က ကုမ္ပဏီ၏မတည်ငွေရင်းတွင်ဖြစ်စေ၊ မည်သည့်ကုမ္ပဏီ၏အစုရှယ်ယာ မတည်ငွေရင်းထဲသို့ ပြောင်းလဲနိုင်သည့်စာချုပ်စာတမ်းတစ်ရပ်ထဲသို့ဖြစ်စေ မည်သည့် အစုရှယ်ယာတွင်မဆို အတိုးနှုန်းတစ်ရပ်ကို ရယူခြင်း (မည်သို့ပင်ထိခိုက်စေကာမူ)။

(၃) အစုစပ်လုပ်ငန်း၊ ကုမ္ပဏီများအုပ်စု၊ ဖက်စပ်လုပ်ငန်း သို့မဟုတ် အလားတူအဖွဲ့အစည်း များ သို့မဟုတ် ဆက်ဆံရေးနယ်ပယ်သို့ဝင်ရောက်ခြင်း၊ ပါဝင်ခြင်း သို့မဟုတ် ဆက်လက်တည်ရှိနေခြင်း။

(ပ) "ကုမ္ပဏီ" ၏ ဘုတ်အဖွဲ့၏ဖွဲ့စည်းမှု သို့မဟုတ် စာချုပ်ဝင်များအကြား သတ်မှတ်ထား သည့် "ဒါရိုက်တာများ" ခန့်အပ်မှုအနေအထားပြောင်းလဲခြင်း။

(ဏ) "ကုမ္ပဏီ" ၏ "ဦးဆောင်ညွှန်ကြားရေးမှူး" ကို ခန့်အပ်ခြင်းနှင့် "ဦးဆောင်ညွှန်ကြား ရေးမှူး" ၏အခကြေးငွေကို သတ်မှတ်ခြင်း။

(တ) အကျုံးဝင်သက်ဆိုင်သည့်ဥပဒေအရ လိုအပ်သည့်ပြောင်းလဲချက်များ သို့မဟုတ် ခန့်အပ် ထားသည့် "စာရင်းစစ်များပြောင်းလဲခြင်းမှအပ ငွေစာရင်းကျင့်စဉ်နှင့် ပေါ်လစီများတွင် အဓိကပြောင်းလဲခြင်း။

(ထ) "ကုမ္ပဏီ နှင့် ယင်း၏အဖွဲ့ဝင်များ၏ တစ်ခုသောအဖွဲ့ဝင်၊ စာချုပ်ဝင် သို့မဟုတ် "ကုမ္ပဏီ" ၏ဒါရိုက်တာ သို့မဟုတ် ယင်းတို့နှင့်ဆက်စပ်သည့် ပုဂ္ဂိုလ်တစ်ဦးဦး (အနီးကပ်ဆုံး မိသားစုဝင်များအပါအဝင်) တို့အကြား လုပ်ငန်းဆောင်ရွက်မှု သို့မဟုတ် လုပ်ငန်းဆောင် ရွက်မှုအများအပြားဆောင်ရွက်ခြင်း။

(ဒ) သာနာညီမျှမှုနှင့်ဆက်စပ်သော စီမံခန့်ခွဲရေး သို့မဟုတ် ဝန်ထမ်းစွမ်းဆောင်မှုစီမံချက်ကို ဖန်တီးခြင်း၊ ပြင်ဆင်ခြင်း သို့မဟုတ် ရပ်စဲခြင်း။

(ဓ) စီးပွားရေးလုပ်ငန်း၏ သာမန်လုပ်ငန်းဆောင်ရွက်ရာ (ငွေပို့ထုတ်ခြင်းကိစ္စရပ်များ အစ ရှိသည်ဖြင့်) မှအပ "ကုမ္ပဏီ" ၏ ပိုင်ဆိုင်သည့်ပစ္စည်းများပေါ်တွင် ကြွေးမြီတာဝန်ကို ဖန်တီးခြင်း သို့မဟုတ် ချမှတ်ခြင်း။

(န) ကုမ္ပဏီအတွက် "စီးပွားရေးလုပ်ငန်းစီမံချက်" ကို သဘောတူခွင့်ပြုခြင်း သို့မဟုတ် ပြင်ဆင်ခြင်း။

(ပ) "ကုမ္ပဏီ" က အမေရိကန်ဒေါ်လာ ၅၀,၀၀၀ (စီးပွားရေးလုပ်ငန်း၏ သာမန်နှင့် ပုံမှန်ဆောင် ရွက်သည့် ကြွေးမြီကောက်ခံမှုနှင့် ဆက်စပ်သည်မှအပ) ထက်ပိုသော တရားတဘောင် စွဲဆိုခြင်း သို့မဟုတ် ခုံသမာဓိနည်းဖြင့်ဖြေရှင်းခြင်း သို့မဟုတ် ကြားဝင်ဖျန်ဖြေခြင်း၊ စေ့စပ်ခြင်း (သို့) ဖြေရှင်းခြင်း။

(ဖ) စတော့ခ်အိတ်ချိန်းတစ်ခုပေါ်တွင် "ကုမ္ပဏီ" ၏အစုရှယ်ယာများကို စာရင်းတင်သွင်းခြင်း။

၂၉။ အကယ်၍အစုရှယ်ယာရှင်များသည် အစည်းအဝေးအထမြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေ မပြည့်မီခြင်းကြောင့် အစုရှယ်ယာဝင်များအစည်းအဝေးအား တစ်ကြိမ်(သို့) တစ်ကြိမ်ထက်ပို၍ ဆက်တိုက်ရွှေ့ဆိုင်းရလျှင်သော်လည်းကောင်း၊ (သို့) သီးခြား ကိစ္စ( သဘောတူညီမှုပျက်ပြယ်သွားသည့်ကိစ္စ) အတွက် အတည်ပြုဆုံးဖြတ်ချက်ချမှတ်ရန် လိုအပ်သော ကိစ္စအရင်းခံအား ရှာဖွေ၍မရရှိနိုင်ခြင်းကြောင့်သော်လည်းကောင်း ပြဋ္ဌာန်းချက် ၂၈ တွင်သီးခြားဖော်ပြထားသော ကိစ္စရပ်အ တည်ပြုခြင်းအားမစွမ်းဆောင်နိုင်လျှင်၊ အစုရှယ်ယာဝင်များသည် အဆိုပါသဘောတူညီမှုပျက်ပြယ်သွားသည့်ကိစ္စရပ်အား သက်ဆိုင်ရာ ဥက္ကဋ္ဌ

သို့တင်ပြ၍ ဆုံးဖြတ်ချက်တောင်းခံနိုင်သည်။ ဥက္ကဋ္ဌ သည် အခြားသောလွတ်လပ်သည့် လက်ခံနိုင် ဖွယ်ရှိသည့် ပုဂ္ဂိုလ်တစ်ဦးဦးအားခန့်အပ်၍အဆိုပါကိစ္စအား ကြားဝင်ဖြေရှင်းရန်ခန့်အပ်နိုင်သည်။ အကယ်၍ ဥက္ကဋ္ဌ သည် (ကြားခံဆောင်ရွက်ပေးသည့် သူ၏အကူအညီဖြင့်သော်လည်းကောင်း/ထိုသို့အကူအညီမပါပဲဖြင့် သော်လည်းကောင်း) အဆိုပါ သဘောတူညီမှုပျက်ပြယ်သွားသည့်ကိစ္စအား ဖြေရှင်းနိုင်စွမ်းမရှိလျှင်၊ ဤနေရာ၌ ပြဌာန်းချက် ၇၂ သည်အကြုံးဝင် မည်ဖြစ်သည်။

၃၀။ မည်သည့်အစုရှယ်ယာလက်ရှိဖြစ်သူမျှ " ကုမ္ပဏီ" တွင် ယင်း၏အစုရှယ်ယာများနှင့်စပ် လျဉ်း၍ယင်းကလောလောဆယ်ပေးချေရမည့်တောင်းခံမှု သို့မဟုတ် အခြားငွေရပ်များကိုပေးသွင်း ခြင်းမရှိဘဲ၊ အရပ်ရပ်ဆိုင်ရာအစည်းအဝေးတစ်ရပ်တွင်ဆန္ဒမဲပေးခြင်းမရှိစေရ၊

၃၁။ ကိုယ်စားမဲပေးသူတစ်ဦးကိုခန့်အပ်သည့်စာချုပ်စာတမ်း တစ်ရပ်ကို နည်းလမ်းတကျ ခန့်အပ်ထားသည့် ခန့်အပ်သူသို့မဟုတ် သူ၏ ရှေ့နေက ကိုယ်တိုင်စာဖြင့် ရေးသား၍ ဖြစ်စေ ၊ အကယ်၍ ကော်ပိုရေးရှင်း ဖြစ်ပါက ရုံးတံဆိပ်ခပ်နှိပ်၍ ဖြစ်စေ သို့မဟုတ် ယင်းသို့အခွင့်အာဏာပေးထားသည့် အရာရှိ သို့မဟုတ် ရှေ့နေ ကိုယ်တိုင် ရေးသားရမည်။

၃၂။ ကိုယ်စားမဲပေးသူကိုခန့်အပ်သည့်စာချုပ်စာတမ်းနှင့် ကိုယ်စာလှယ်လွှဲစာ သို့မဟုတ် အခြားအာဏာပိုင်၊ အကယ်၍ရှိလျှင်၊ ယင်းအရလက်မှတ်ရေးထိုးသည့်သို့မဟုတ်ယင်းအခွင့်အာဏာသို့မဟုတ်အာဏာပိုင်၏ ဟုတ်မှန်ကြောင်းအတည်ပြုထားသည့် မိတ္တူကို " ကုမ္ပဏီ" ၏မှတ်ပုံတင်ထားသည့် "ရုံး" တွင်အပ်နှံထားရမည်။ သို့မဟုတ် ယင်းကိုစာချုပ်စာတမ်းတွင် အမည် ပါသူဆန္ဒမဲပေးရန်အဆိုပြုထားသည့်အစည်းအဝေးသို့မဟုတ်ရွှေ့ဆိုင်းသည့်အစည်းအဝေးကျင်းပရန်အချိန်မတိုင်မီ ခုနစ်ဆယ့်နှစ် (၇၂) နာရီထက်နောက်မကျစေဘဲအစည်းအဝေးကျင်းပမည့် နို့တစ်စာ တွင်ယင်းကိစ္စရပ်အတွက် အသေးစိတ်ဖော်ပြထားသည့် မြန်မာနိုင်ငံအတွင်းအခြားတစ်နေရာတွင် အပ်နှံရမည်ဖြစ်ပြီး ၊ ပျက်ကွက်ပါက၊ ကိုယ်စားမဲပေးသူခန့်အပ်သည့် စာချုပ်စာတမ်းသည် တရားမဝင်ချေ။

၃၃။ ကိုယ်စားမဲပေးသူခန့်အပ်သည့် စာချုပ်စာတမ်းသည်အောက်ပါပုံစံဖြစ်ရမည် (သို့မဟုတ်) ဒါရိုက်တာများကသဘောတူခွင့်ပြုသည့် အခြားပုံစံဖြစ်နိုင်သည်။

ကုမ္ပဏီလီမိတက်။

"ကျွန်တော်.........................၊ ............................ တွင်နေထိုင်သူသည် .............. ကုမ္ပဏီလီမိတက်တွင် အစုရှယ်ယာလက်ရှိဖြစ်သူ၊ ဖြစ်သဖြင့်.................... အားကျွန်ုပ်အတွက် ဆန္ဒမဲပေးရန် ကိုယ်စားမဲပေးသူအဖြစ် နှင့် ကျွန်ုပ်ကိုယ်စား......................... နေ့တွင်ကျင်းပမည့် (သာမန် သို့မဟုတ် အထူး၊ ကိစ္စရပ်တစ်ခုချင်းစီအလိုက်) အရပ်ရပ်ဆိုင်ရာအစည်းအဝေး)တွင် ဆန္ဒမဲပေးရန်ခန့်အပ်လိုက်သည်။

......................................... နေ့တွင်လက်မှတ်ရေးထိုးသည်။

**ဒါရိုက်တာများ**

၃၄။ အရပ်ရပ်ဆိုင်ရာအစည်းအဝေးတစ်ရပ်တွင် အခြားနည်းဆုံးဖြတ်ခြင်းမပြုပါက ဒါရိုက်တာများ၏ အရေအတွက်သည် (၂) ဦးထက်မနည်း (၈) ဦးထက်မများဖြစ်ကြရမည်။

ပထမဆုံးသောဒါရိုက်တာများမှာ အောက်ပါပုဂ္ဂိုလ်များဖြစ်ကြရမည် -

(၁) Kevin Robert Whitcraft ၊ ပတ်စ်ပို့နံပါတ် - AA ၂၆၅၈၅၅၆၊ ထိုင်းနိုင်ငံ

(၂) CHAN WAI ZHONG ၊ ပတ်စ်ပို့နံပါတ် - A ၃၅ဝ၆၁၃၄၆ မလေးရှား

(၃) Dale Jones ၊ ပတ်စ်ပို့နံပါတ် - ၅ဝ၅၆၇၁၅၁ဝ အမေရိကန်

(၄) ဦးခင်ထွန်း၊ NRIC - ၁၂/ဗတထ (နိုင်) ဝ၃၃၁၂၇

(၅) ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်၊ NRIC - ၁၂/ကတတ (နိုင်) ဝ၁၂၂၄၃

(၆) ဦးအောင်မျိုးမြတ်၊ NRIC - ၉/ခအဇ (နိုင်) ဝဝဝ၉၃၉

၃၅။ ကုမ္ပဏီသည် အစုရှယ်ယာလက်ရှိဖြစ်သူများ၏ အစည်းအဝေးတွင်အခါအားလျော်စွာ "ဒါရိုက်တာများ" ၏ အရေအတွက်ကို တိုးနိုင်သည့် သို့မဟုတ် လျော့ချနိုင်သည်။

၃၆။ အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦးစီသည် ယင်းအစုရှယ်ယာလက်ရှိဖြစ်သူများအကြား သဘော တူညီချက်တစ်ရပ်တွင် သတ်မှတ်ဖော်ပြထားသည့် ဒါရိုက်တာများအရေအတွက်ကို ခန့်အပ်ရန် (သို့မဟုတ်) ဖယ်ရှားရန် အခွင့်အရေးရှိရမည်။ အစုရှယ်ယာလက်ရှိဖြစ်သူတစ်ဦးသည် ယင်းအခွင့်အရေး များနှင့်အညီ ခန့်အပ်ထားသည့် (သို့မဟုတ် ဖယ်ရှားထားသည့်) ဒါရိုက်တာတစ်ဦး၏ ယင်းခန့်အပ်မှု (သို့မဟုတ် ဖယ်ရှားမှု) ကို ထောက်ခံသည့်အနေဖြင့် ဆန္ဒမဲပေးရန် သဘောတူညီသည်၊ ဤအခွင့်အရေး များကို အထောက်အထားပြု၍ ဒါရိုက်တာများသည် တစ်ညီတစ်ညွတ်တည်းဆုံးဖြတ်ချက်ဖြင့် ရောင်တခင် နေရာလစ်လပ်မှုကို နေရာဖြည့်စွက်ရန်အတွက်ဖြစ်စေ၊ တည်ဆဲ "ဒါရိုက်တာများ" တွင် တိုးချဲ့ခန့်အပ်ရန် အတွက်ဖြစ်စေ မည်သူကိုမဆို "ဒါရိုက်တာ" အဖြစ် ခန့်အပ်ရန် မည်သည့်အချိန်တွင်မဆို ထို့ပြင် အခါ အားလျော်စွာ အခွင့်အရေးရှိရမည်။ သို့သော် ယင်းကြောင့် "ဒါရိုက်တာများ" ၏ စုစုပေါင်းအရေအတွက် သည် ဤအပိုဒ်များနှင့်အညီ သတ်မှတ်ထားသည့်ဦးရေကို မည်သည့်အချိန်တွင်မဆို မကျော်လွန်စေရ။

၃၇။ အထက်တွင် ရည်ညွှန်းသတ်မှတ်ထားသည်အတိုင်း သီးသန့်သဘောတူညီချက်ဖြင့် "ဒါရိုက်တာ" များအရေအတွက်ကို ခန့်အပ်ရန် (သို့မဟုတ် ဖယ်ရှားရန်) အစုရှယ်ယာလက်ရှိဖြစ်သူ တစ်ဦး၏အခွင့် အရေးများကို အထောက်အထားပြု၍ "ကုမ္ပဏီ" သည် မည်သည့် "ဒါရိုက်တာ" ကိုမဆို ရုံးတာဝန်သက်တမ်း မကုန်ဆုံးမီ သာမန်ဆုံးဖြတ်ချက်ဖြင့် ဖယ်ရှားနိုင်သည်။ သို့မဟုတ် ယင်းကိုယ်စားအခြားသူတစ်ဦးကို သာမန်ဆုံးဖြတ်ချက်ဖြင့် ခန့်အပ်နိုင်သည်။

၃၈။ "ဒါရိုက်တာများ"၏အခကြေးငွေကိုအစုရှယ်ယာလက်ရှိဖြစ်သူများအစည်းအဝေးတွင် အတည်ပြုသည့်အထူးဆုံးဖြတ်ချက်ဖြင့် " ကုမ္ပဏီ" ကအခါအားလျော်စွာဆုံးဖြတ်ရမည်။

၃၉။ "ဒါရိုက်တာများ"သည်အခါအားလျော်စွာယင်းတို့ထဲမှတစ်ဦးကို "မန်းနေဂျင်းဒါရိုက်တာ" အဖြစ်ခန့်အပ်နိုင်ပြီးယင်းတို့က သင့်တော် သည်ဟုယူဆသည်အတိုင်း ယင်းသို့ခန့်အပ်သည့်ကာလ၊ အခကြေးငွေနှင့်အခြားစည်းကမ်းချက်များကို သတ်မှတ်နိုင်သည်၊ထိုပြင်"မန်းနေးဂျင်ဒါရိုက်တာ"သည်မည်သည့်အချိန်တွင်မဆိုနှင့်အခါအားလျော်စွာဘုတ်အဖွဲ့ကယင်းသို့လွှဲ အပ်ထားသည့်အခွင့်အာဏာများရှိရမည်။

၄ဝ။ "ဒါရိုက်တာများ" အနေဖြင့်" ကုမ္ပဏီ"တွင်အစုရှယ်ယာများလက်ရှိဖြစ်ရန်မလိုချေ။

## ဒါရိုက်တာများ၏လုပ်ငန်းစဉ်များ

၄၁။ ဒါရိုက်တာများသည် ယင်းတို့၏အစည်းအဝေးများကို ယင်းတို့သင့်တော်သည်ဟု ထင်မြင်သည့် အတိုင်း လုပ်ငန်းဆောင်ရွက်ရန်တွေ့ဆုံနိုင်သည်။ ရွှေ့ဆိုင်းနိုင်သည်။ ထို့ပြင် အခြားနည်းဆောင်ရွက်နိုင် သည်။ ဒါရိုက်တာအသီး သီးသည် (၁) ကြိမ်မဲပေးနိုင်သည်။ အထက်အပိုဒ် ၂၈ ကို အထောက်အထားပြု၍ အစည်းအဝေးတွင် ပေါ်ပေါက်သည့် မေးခွန်းများ သို့မဟုတ် ဆုံးဖြတ်ချက်များကို ဆန္ဒမဲ၏အများစုဖြင့် ဆုံးဖြတ်ရမည်။ ထို့ပြင် "ဒါရိုက်တာများ" ၏ အများစု ဆန္ဒမဲဖြင့် ဆုံးဖြတ်ချက်သည် "ဒါရိုက်တာများ" ၏ဆုံးဖြတ်ချက်တစ်ရပ်အဖြစ် အားလုံးသောကိစ္စရပ်များ အတွက် မှတ်ယူရမည်။ "ဒါရိုက်တာ" တစ်ဦးသည် မည်သည့်အချိန်တွင်မဆို "ဒါရိုက်တာများ" ၏ အစည်း အဝေးကို ဆင့်ခေါ်နိုင်သည်။

၄၂။ ဘုတ်အဖွဲ့၏အစည်းအဝေးတစ်ရပ်တွင် စီးပွားရေးလုပ်ငန်းဆောင်ရွက်ရန်အတွက် သတ်မှတ် ထားသည့် အထမြောက်သောဦးရေမှာလေး(၄)ဦးဖြစ်ရမည်၊ ယင်းတို့တွင်နစ်(၂)ဦး အနက်တစ်ဦးစီသည် အစုရှယ်ယာလက်ရှိဖြစ်သူကို ကိုယ်စားပြုသူဖြစ်ရမည့်အပြင် အစည်းအဝေးတစ်လျောက်လုံး လူကိုယ်တိုင်တက်ရောက်ရမည် (သို့မဟုတ်) "အပိုဒ်များ"အရနည်းလမ်းတကျခန့်အပ်သည့်အလှည့်ကျတက်ရောက်သူမှတစ်ဆင့်ဖြစ်ရမည်။ ဘုတ်အဖွဲ့၏အစည်း အဝေးကိုအစည်း အဝေးအတွက်သတ်မှတ်သည့် အချိန်၏ နာရီဝက်အတွင်းအထမြောက်သည့်ဦးရေပြည့်မီရန်တက်ရောက် သည့်ဒါရိုက်တာ များမပြည့်မီပါ အဆိုပါအစည်းအဝေးအား ခုနစ်ရက်ကြာပြီး နောက် အဆိုပါနေရာတွင် အဆိုပါအချိန်အတိုင်း ရွှေ့ ဆိုင်းရမည်ဖြစ်သည်။ သို့သော်ထိုသို့ရွှေ့ဆိုင်းထားသော်လည်း အစည်းဝေးစတင်ရန်သတ်မှတ်ထားသည့်အချိန်မှ (၂) နာရီအတွင်း အစည်းအဝေးအထမြောက်ရန် အနည်း ဆုံးလိုအပ်သည့်လူဦးရေမရှိသဖြင့် အစည်းအဝေးမကျင်းပနိုင်ပါက အဆိုပါ အစည်း အဝေးအား နောက်ထပ်(၂) ရက်အကြာတွင် အဆိုပါအချိန် နှင့် အဆိုပါနေရာတွင် ကျင်းပရန်ထပ်မံ၍ ရွှေ့ ဆိုင်းရမည်ဖြစ်သည်။ သို့သော်ထိုသို့ဒုတိယအကြိမ်ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင် အစည်း အဝေးစတင်ရန်သတ် မှတ်ထားသည့်အချိန်မှ (၂) နာရီအတွင်း အစည်းအဝေးအထမြောက်ရန် အနည်း ဆုံးလိုအပ် သည့် လူဦး ရေမရှိပြန်ပါက တက်ရောက်သည့်ဒါရိုက်တာများ ( အနည်းဆုံး ဒါရိုက်တာ ၂ ဦး) က အဆိုပါ ဒါရိုက်တာများအဖွဲ့ အစည်းအဝေးအား ဆက်လက် ကျင်းပပြီး အစည်းအဝေး၏ အစီအစဉ်တွင်ပါရှိသည့်ကိစ္စ ရပ်များအပေါ်မဲပေးခြင်းများ လည်း ဆောင် ရွက်နိုင်သည်။

၄၃။ ဆက်လက်တာဝန်ထမ်းဆောင်နေသည့်"ဒါရိုက်တာ"များသည်ဘုတ်အဖွဲ့တွင်နေရာလပ်ရှိသော်လည်း လုပ်ကိုင်ဆောင်ရွက်နိုင်သည်၊သို့သော်အကယ်၍ယင်းတို့အရေအတွက်ကို"ဒါရိုက်တာများ၏လိုအပ်သည့်အထမြောက်သောဦးရေ"အဖြစ်သတ်မှတ်သည့်ဦးရေအောက်လျော့ချလျှင်သို့မဟုတ်" ကုမ္ပဏီ"၏စည်းမျဉ်းနှင့်အညီလျော့ချလျှင်၊ ဆက်လက်တာ ဝန်ထမ်း ဆောင်နေသည့် "ဒါရိုက်တာ" သို့မဟုတ် "ဒါရိုက်တာများ" သည်ယင်းအရေအတွက် သို့ "ဒါရိုက်တာများ"အရေအတွက်ကို တိုးမြှင့်ရန်ကိစ္စအတွက်သာလျှင်ဆောင်ရွက်ရမည် သို့မဟုတ် ကုမ္ပဏီ၏အရပ်ရပ်ဆိုင်ရာအစည်း အဝေးဆင့်ခေါ်ခြင်းအတွက် သာလျင်ဖြစ်ရမည်၊ အခြားသောကိစ္စရပ်များကို ဆောင်ရွက်ခွင့်မရှိစေရ။

၄၄။ ဒါရိုက်တာများအဖွဲ့၏ သဘာပတိကို အစုရှယ်ယာရှင်များမှ ပါဝင်တွဲဖက်၍ရွေးချယ်ခန့်အပ်ခြင်းများပြုလုပ်နိုင်ပြီး၊ ဒါရိုက်တာ အဖွဲ့ မှအတည်ပြုမည် ဖြစ်သည်။

၄၅။ "ဒါရိုက်တာ"များသည် ယင်းတိုကသင့်တော်သည်ဟုထင်မြင်သည့်အတိုင်း အစုရှယ်ယာ လက်ရှိဖြစ်သူ သို့မဟုတ် အစုရှယ်ယာလက်ရှိဖြစ်သူများပါဝင်သည့်ကော်မတီများသို့မဟုတ်ယင်းတို့၏အခွင့်အာဏာများအနက် တစ်စုံတစ်ရာ ကို လွှဲပြောင်းပေးနိုင်သည်။ယင်းသို့ဖွဲ့စည်းသည့် ကော်မတီတစ်ရပ်သည် ထိုသို့လွှဲအပ်သည့်အခွင့်အာဏာများကို ကျင့်သုံးရာတွင် ဒါရိုက်တာများကသူ တို့အပေါ်တွင်စည်းကြပ်သည့်စည်းမျဉ်းများကို လိုက်နာရမည်။

၄၆။ ကော်မတီတစ်ရပ်သည်ယင်းတို့၏အစည်းအဝေးများအတွက်သဘာပတိတစ်ဦးကိုရွေးချယ်နိုင်သည်၊ အကယ်၍ သဘာပတိ ကိုရွေးချယ်ခြင်းမပြုလုပ်နိုင်ပါက၊ သို့မဟုတ်အကယ်၍ အစည်းအဝေးတွင် ယင်းကော်မတီအစည်းအဝေးကျင်းပရေး အတွက်သတ်မှတ်သည့် အချိန်ပြီးနောက်တစ်ဆယ်မိနစ်အတွင်းသဘာပတိမတက်ရောက်ပါက တက်ရောက်လာသည့် အစုရှယ်ယာလက်ရှိဖြစ်သူများ သည်ယင်းတို့အနက်မှ တစ်ဦးကိုအစည်းအဝေး၏သဘာပတိအဖြစ်ရွေးချယ်နိုင်သည်။

၄၇။ ကော်မတီသည်ယင်းကသင့်တော်သည်ဟုထင်မြင်သည့်အတိုင်းအစည်းအဝေးကို ကျင်းပ နိုင်သည်၊ ရွှေ့ဆိုင်းနိုင်သည်။ အထက်အပိုဒ် ၂၉ အရ၊အစုရှယ်ယာလက်ရှိဖြစ်သူများ၏ အထူးဆုံးဖြတ်ချက်ဖြင့်ဆုံးဖြတ်မည် တစ်စုံတစ်ရာသော ပြဿနာရပ်များအတွက်လိုအပ်ချက်နှင့်စပ်လျဉ်း၍ကော်မတီအစည်းအဝေးတွင်ပေါ် ပေါက်သည်သို့မဟုတ် တင်သွင်းသည့် ပြဿနာ တစ်စုံတစ်ရာကိုတက်ရောက်သည့်အစုရှယ်ယာလက်ရှိဖြစ်သူများ၏ အများစုဆန္ဒမဲဖြင့်ဆုံးဖြတ်ရမည်။ ထို့ပြင်ဆန္ဒမဲ များတူညီနေပါက သဘာပတိသည်ဒုတိယအကြိမ်မဲပေးခြင်း သို့မဟုတ် အဆုံးအဖြတ်ပေးသည့်မဲပေး ခွင့်မရှိစေရ။

၄၈။ "ဒါရိုက်တာများ"၏အစည်းအဝေး သို့မဟုတ် "ဒါရိုက်တာများ"၏ကော်မတီ သို့မဟုတ် "ဒါရိုက်တာ" အဖြစ်ဆောင်ရွက်သည့် ပုဂ္ဂိုလ်ကပြုလုပ်သည့်ဆောင်ရွက်ချက်များအားလုံးသည်ယင်းဒါရိုက်တာများသို့မဟုတ် အထက်ဖော်ပြပါ အတိုင်းဆောင် ရွက်သည့် ပုဂ္ဂိုလ်အားခန့်အပ်ခြင်းကိစ္စ သို့မဟုတ် ထိုသူများ သို့မဟုတ် ထိုသူများအနက်မှ တစ်ဦးဦးသည် အရည်အချင်းပြည့်မီခြင်းမရှိ ကြောင်း အားနည်းချက်တစ်စုံတစ်ရာကိုနောက်မှတွေ့ ရှိသော်လည်းယင်းပုဂ္ဂိုလ်အားနည်းလမ်း တကျခန့်အပ်ခဲ့သည်၊ ထို့ပြင် ဒါရိုက်တာတစ်ဦးအဖြစ်အရည်အချင်းပြည့်ဝသကဲ့သို့ တရားဝင်ရမည်၊ ယင်းအခြေအနေတွင် "ဒါရိုက်တာ"က" ကုမ္ပဏီ"ပေါ် တွင်ဆောင်ရွက်ရန်တာဝန်ရှိမှုသို့မဟုတ်အခြားသူတစ်ဦး သည်ယင်း၏ အခွင့်အာဏာနယ် ပယ်ပြင်ပ တွင်ဆောင်ရွက်ခြင်း အတွက်ထိခိုက်မှုမရှိစေရ။

၄၉။ ဒါရိုက်တာများသည် ဒါရိုက်တာများ၏ အစည်းအဝေးတစ်ရပ်တွင် တယ်လီဖုန်းကွန်ဖရင့်၊ ဗီဒီယိုကွန်ဖရင့်၊ ရုပ်မြင်သံကြား သို့မဟုတ်အလားတူဆက်သွယ်ရေးကိရိယာဖြင့်ပါဝင်ဆောင်ရွက်နိုင်သည်။ ယင်းသို့ဖြင့်အစည်းအဝေး တွင်ပါဝင် ဆောင်ရွက် နေသည့်ပုဂ္ဂိုလ်များအားလုံးသည်တစ်ဦးကိုတစ်ဦးကြားနိုင်ကြပြီး၊ယင်းအခြေအနေတွင်အဆိုပါ "ဒါရိုက်တာများ" သည် အစည်းအဝေးကိုတက်ရောက်သည်ဟုမှတ်ယူရမည်။အထက်ပါနည်းလမ်းအတိုင်း အစည်းအဝေးတွင် ပါဝင်ဆောင်ရွက် သည့်"ဒါရိုက်တာ"တစ်ဦးသည်အစည်းအဝေးတွင် အထမြောက်သည့်ဦးရေတက်ရောက်ရာတွင် သေချာစေ ရေးအတွက် ထည့်သွင်းရေတွက်နိုင်သည် ။ တယ်လီဖုန်းကွန်ဖရင့်၊ ဗီဒီယိုကွန်ဖရင့်၊ ရုပ်မြင်သံကြား သို့မဟုတ် အခြားအလားတူဆက်သွယ်ရေး ပစ္စည်းများဖြင့်ပြုလုပ်သည့်အစည်းအဝေးတစ်ရပ်တွင် လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်းကို အစည်းအဝေး၏သဘာပတိကရေးထိုးထားပါက ယင်းသည်ယင်း လုပ်ငန်းဆောင်မှု၏ အပြီးသတ်သက်သေခံချက်ဖြစ်ပြီး၊ လိုအပ်သည့်လုပ်ထုံးလုပ်နည်းများကို လိုက်နာ ခြင်းလည်းဖြစ်သည်။

၅၀။ "ဒါရိုက်တာများ"အစည်းအဝေးတွင်လောလောဆယ်၌နို့တစ်စာကိုလက်ခံခွင့်ရှိသည့်"ဒါရိုက်တာများ" အားလုံးကလက်မှတ်ရေး ထိုးထားသည့်စာဖြင့်ရေးသားထားသော ဆုံးဖြတ်ချက်သည် နည်းလမ်းတကျကျင်းပပြုလုပ်သည့် ဒါရိုက်တာများ၏ အစည်းအဝေးတွင်ချမှတ် သကဲ့သို့ တရားဝင်ပြီး၊ ထိရောက်မှုရှိစေရမည်၊ ယင်းဆုံးဖြတ်ချက်တွင် ဒါရိုက်တာတစ်(၁)ဦး သို့မဟုတ်တစ်ဦးထက်ပိုသော"ဒါရိုက်တာများ"တစ်ဦးစီကလက်မှတ်ရေးထိုးထားသည့် အလားတူပုံစံသည် လည်းပါဝင်နိုင် သည်။ "စာဖြင့်ရေးသားပြီးလက်မှတ်ရေးထိုးသည်" ဆိုသည့်စကားရပ်တွင် ယင်းဒါရိုက်တာက အီးမေးလ်၊ တယ်လီဖက်စ်၊ တဲလက်စ်၊ ကေဘယ်လ်၊ ကြေးနန်း သို့မဟုတ် အလားတူ အီလက်ထရွန်နစ် သို့ အမြင်အာရုံမြင့်သိရှိနိုင်သည့် ပုံဏ္ဍာန်ဖြင့်သဘောတူခွင့်ပြုချက်ပေးခြင်းသည်လည်းပါဝင်သည်။

၅၁။ အကယ်၍ဒါရိုက်တာများသည် အစည်းအဝေးအထမြောက်ရန် အနည်းဆုံးလိုအပ်သည့် လူဦးရေမပြည့်မီခြင်းကြောင့် ဒါရိုက်တာများအဖွဲ့ အစည်းအဝေးအား နှစ်ကြိမ်(သို့ ) နှစ်ကြိမ်ထက်ပို၍ ဆက်တိုက်ရွှေ့ဆိုင်းရလျှင်သော်လည်းကောင်း၊

(သို့ ) သီးခြား ကိစ္စ( သဘောတူညီမှုပျက်ပြယ်သွားသည့်ကိစ္စ) အတွက် အတည်ပြုဆုံးဖြတ်ချက်ချမှတ်ရန် လိုအပ်သော ကိစ္စ အရင်းခံ အား ဒါရိုက်တာများမှ ရှာဖွေ၍မရရှိနိုင်ခြင်းကြောင့်သော်လည်းကောင်း၊သီးခြားဖော်ပြထားသော ကိစ္စရပ်အား အတည်ပြုခြင်း ငှာမ စွမ်း ဆောင်နိုင်လျှင်၊ အဆိုပါဒါရိုက်တာများမှ ဆုံးဖြတ်ရမည့်သဘောတူညီမှုပျက်ပြယ်သွားသည်ကိစ္စ သည် ပြဋ္ဌာန်းချက် ၂၉ နှင့်သက်ဆိုင်စေမည်ဖြစ်သည်။ အကယ်၍ အစုရှယ်ယာရှင်များ၏ ဥက္ကဋ္ဌ သည် (ကြားခံ ဆောင်ရွက်ပေးသည့် သူ၏ အကူအ ညီဖြင့်သော်လည်းကောင်း/ထိုသို့ အကူအညီမပါပဲဖြင့် သော်လည်းကောင်း) အဆိုပါ သဘော တူညီမှုပျက်ပြယ်သွား သည့်ကိစ္စ အား ဖြေရှင်းနိုင်စွမ်းမရှိလျှင်၊ ဤနေရာ၌ ပြဋ္ဌာန်းချက် ၇၂ သည်အကျုံးဝင် မည်ဖြစ် သည်။

## ဒါရိုက်တာများ၏ အခွင့်အာဏာများနှင့် တာဝန်များ

၅၂။ " ကုမ္ပဏီ"၏ စီးပွားရေးလုပ်ငန်းကို ကုမ္ပဏီတည်ထောင်ပြီး ၊ မှတ်ပုံတင်ရာတွင်ကုန်ကျ သည့် အသုံးစရိတ်များကိုပေးသည့် "ဒါရိုက်တာများ" ကစီမံခန့်ခွဲနိုင်ပြီး၊ ယင်းတို့သည် " ကုမ္ပဏီ"၏ ယင်းအခွင့်အာဏာများကို ကျင့်သုံးနိုင်သည်။ ယင်းအခွင့်အာဏာများဆိုရာ၌ အရပ်ရပ်ဆိုင်ရာ အစည်းအဝေးတွင် "ကုမ္ပဏီ" ကကျင့်သုံးရန်လိုအပ်သည့် "မြန်မာ ကုမ္ပဏီများအက်ဥပဒေ" သို့မဟုတ် လက်ရှိအတည်ဖြစ်နေသည့် ပြင်ဆင်ချက် သို့မဟုတ် ဤအပိုဒ်များနှင့်အညီ ကျင့်သုံးရမည်။ ထို့ပြင်ဤ "အပိုဒ်များ"၏ စည်းမျဉ်းများ၊ အရပ်ရပ်ဆိုင်ရာအစည်းအဝေးများတွင် " ကုမ္ပဏီ"ကအတည်ပြုထား သည့်စည်းမျဉ်းများသည် အထက်ပါ"အက်ဥပဒေ" ၊ စည်းမျဉ်းများ သို့မဟုတ် သက်ဆိုင်ရာအကျုံးဝင် သက်ဆိုင်သည့် ဥပဒေ၏ပြဋ္ဌာန်း ချက်များနှင့် မဆီမလျော်မှုမရှိစေရ။ထို့ပြင်မည်သည့်ကိစ္စရပ်တွင် မဆိုအရပ်ရပ်ဆိုင်ရာ အစည်းအဝေးများ တွင်ပြုလုပ်သည် မည်သည့် စည်းမျဉ်းကမှ ဒါရိုက်တာများ၏ ယခင်လုပ်ဆောင်ချက်တစ်စုံတစ်ရာသည်အကယ်၍ ယင်းစည်းမျဉ်းများ ကိုအတည် မပြုခဲ့ပါလျှင် တရားဝင်ဖြစ်မည့်ယင်းလုပ်ရပ်ကို တရားမဝင်မဖြစ်စေရ။

၅၃။ "ဒါရိုက်တာများ" က " ကုမ္ပဏီ"၏ ကိစ္စရပ်များအတွက် လောလောဆယ်ပြန်လည်ပေးသွင်း ခြင်းမပြုရသေးသည့် ငွေများ၊ ချေးငှားထားသည့်သို့မဟုတ်ရရှိအောင်ရှာဖွေထားသည့်ငွေရပ်ပမာဏ(အစုရှယ်ယာမတည် ငွေထုတ်ပေး သည်ထက်ပို သည့်ငွေရပ်သည့် ငွေရပ်သည်မည်သည့်အချိန်တွင် မဆိုအရပ်ရပ်ဆိုင်ရာ အစည်းအဝေးတွင် ကုမ္ပဏီ၏ခွင့်ပြုချက်မပါဘဲ) " ကုမ္ပဏီ"၏ထုတ်ဝေထားသည်အစုရှယ်ယာမတည်ငွေ ရင်းကိုကျော်လွန်ခြင်းမရှိစေရ။

၅၄။ ဒါရိုက်တာများသည်မြန်မာ ကုမ္ပဏီများအက်ဥပဒေပြဋ္ဌာန်းချက်များ သို့မဟုတ် လက်ရှိ အတည်ဖြစ်နေသည့် ယင်းအက်ဥပဒေ ကိုပြင်ဆင်ချက်၊ထို့ပြင်အထူးသဖြင့် ကုမ္ပဏီ၏ပစ္စည်းကိုအကျိုးသက်ရောက်စေသည့်ပေါင်နှံခြင်း၊နှင့် စရိတ်စခများ၏ အသေး စိတ်များကိုမှတ်ပုံတင်ခြင်းနှင့်စပ်လျဉ်း၍ပြဋ္ဌာန်းချက်များသို့မဟုတ်ယင်းကဖန်တီးသည့်အချက်များကို နည်းလမ်းတကျ မှတ်ပုံတင်ရမည်အပြင်၊ ဒါရိုက်တာများ၏မှတ်ပုံတင်စာအုပ်ထားရှိရန်၊ အစုရှယ်ယာလက်ရှိဖြစ်သူများနှစ်စဉ်စာ ရင်း ယင်းကိစ္စရပ်နှင့် စပ်လျဉ်း၍အသေးစိတ်အချက်များ၏ အကျဉ်းချုပ် အစုရှယ်ယာမတည်ငွေရင်းကို ပေါင်းစည်းခြင်း သို့မဟုတ် တိုးပွားခြင်းနို့တစ်စာ သို့မဟုတ် အစုရှယ်ယာများကို စတော့စ်သို့ပြောင်းလဲ ခြင်းနှင့် အထူးဆုံးဖြတ်ချက်များ၏ မိတ္တူများနှင့် ဒါရိုက်တာများ မှတ်ပုံတင်စာအုပ်မိတ္တူ နှင့် ယင်းတို့ရှိ အပြောင်းအလဲများ၏ အကြောင်းကြားစာများ၏ မိတ္တူများကို မှတ်ပုံတင်အရာရှိထံသို့ပေးပို့ခြင်း တို့ကိုလည်းလိုက်နာဆောင်ရွက်မည်။

၅၅။ ဒါရိုက်တာများသည် အောက်ပါကိစ္စရပ်များကို ထိန်းသိမ်းထားရှိနိုင်ရန်အတွက် အစည်း အဝေးမှတ်တမ်းများကို စာအုပ်များအ ဖြစ်ပြုလုပ်ရမည်-

(က) ဒါရိုက်တာများကပြုလုပ်သည့်အရာရှိများခန့်အပ်ခြင်းအားလုံး၊

(ခ) ဒါရိုက်တာများ၏ အစည်းအဝေးများနှင့် ဒါရိုက်တာများကော်မတီ၏ အစည်း အဝေးတစ်ခုစီတွင် တက်ရောက်သည့် ဒါရိုက်တာများ၏အမည်များ။

(ဂ) ကုမ္ပဏီ၊ဒါရိုက်တာများနှင့်ဒါရိုက်တာများ၏ကော်မတီများ၏အစည်းအဝေး များအားလုံးတွင် အတည်ပြု သည့် ဆုံးဖြတ်ချက်များအားလုံး။

ထို့ပြင်ဒါရိုက်တာများသို့မဟုတ်ဒါရိုက်တာများကော်မတီအစည်းအဝေးတွင်တက် ရောက်ကြသည့် ဒါရိုက်တာတစ်ဦးစီ သည် ယင်းကိစ္စအတွက်ထားရှိသည့် စာအုပ်တွင်ယင်း၏အမည်ကို လက်မှတ်ရေးထိုးရမည်။

၅၆။ မြန်မာ ကုမ္ပဏီများအက်ဥပဒေ၏စည်းမျဉ်းဂ၇၁၊ဇယား(က)တွင်အပ်နှင်းထားသည့် အရပ်ရပ်ဆိုင်ရာ အခွင့်အာဏာများ ကိုမထိခိုက်စေဘဲ၊ ထို့ပြင်အထက်အပိုဒ်(၂၈) ပါဆန္ဒမဲပေးခြင်းဆိုင်ရာ လိုအပ်ချက်များကို အထောက်အထားပြု၍ ဤတွင်အတိ အလင်းကြေညာအပ်သည်မှာဒါရိုက်တာ များတွင်အောက်ပါအခွင့်အာဏာ များရှိရမည် -

(၁) ကုမ္ပဏီကရယူရန်ခွင့်ပြုရာတွင် ယင်းတို့ကသင့်တော်သည် ဟုထင်မြင် သည့်ဈေးနှုန်းနှင့်ယေဘုယျ စည်းကမ်း ချက်များဖြင့် ပစ္စည်း၊ အခွင့်အရေးများ သို့မဟုတ် အခွင့်ထူးများကို " ကုမ္ပဏီ"အတွက်ဝယ်ယူရန် သို့မဟုတ် အခြားနည်းရယူရန်၊ ထို့ပြင်

